





## ထုတ်ဝေသူ၏ဆန္ဒ

ယနေ့လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေးစာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ဓားရောင်ကို ကာတွန်းရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန်ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့်ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုးဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Goodwill

I have tried to the best of my abilities for this color cartoon illustration to the young people especially for the children so that they can read religious books.

My intention is for the children and the young readers this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned with nationality, religion and help, teaching and culture.



Maung Myo
Myint Moh Maymay Literature

# မာတိကာ

# မာရ်နတ်မင်းကို အောင်မြင်တော်မူခြင်း

## Lord Buddha's victory over Mara

ငါးမာရ် ယဉ်ဇီ—ဂုဏ်သတ္တိကြောင့်
ဇိနအမည်—ရှေ့ရှု တော်ချီအပ်သော
မြတ်စွာဘုရားသည်
ယူဇနာတစ်ရာ ငါးဆယ် အံ့ဖွယ်ကြီးဇီ
ဂိရိမေခလာ—မည်သာတွင်ခြင်း
နတ်ဆင်မင်းထက်—စီးနင်းတက်၍
ကြောက်မက်ဖွယ်သော—စစ်ဗိုလ်ပါနဲ့
ဝဲယာစီယှက်—လက်ရုံးတစ်ထောင်
ဖန်ဆင်းဆောင်၍—နိုင်ယောင်စစ်ထိုး
ကျော်လွှဲ့ ဟိုးသား—တန်ခိုးတောက်ပ
တေဇထန်ပြင်း မာန်နတ်မင်းကို—
ချိုးနှိမ်ပယ်နှင်း အောင်တော်မူခြင်းကား
အောင်ခြင်းပထမဖြစ်ပေသတည်း ။

Because of the status avoided five devils lord Buddha and fifty suprisingly mighty devil travelled and rode on a nat elephant named Gari May Kha Lar and he created thousand of fearful strength of weapons and military fighters and ling-up left and right. He tried to fight till he won Buddha to suppress. But Buddha rejected and succeeded. This was first victory.



မာရ်နတ်မင်းဟူသည်ကား နတ်ပြည်ခြောက်ထပ်တွင်အမြင့်ဆုံးဘုံဖြစ်သော ဝသဝတ္တီနတ်ပြည်မှ နတ်ဆိုးကြီးဖြစ်ကာ ...

The Mara king was the very naughty nat from Wathawatti celestial abode which was the hightest commune of six levels of celestial abode.



ဘုရားရှင်အား ဘုရားမဖြစ်မီ အလောင်းတော်ဘဝမှာပင် ဘုရားမဖြစ်စေရန် နှစ်ကြိမ်တိတိ တားဆီးနှောင့်ယှက်ခဲ့လေသည်။ He obstructed the Buddha in future Buddha life before attaining Buddhahood not to become Buddha two times.




ပထမအကြိမ် တားဆီးနှောင့်ယှက်သည်မှာ ဘုရားလောင်း သိဒ္ဓတ္ထမင်းသား တောထွက်စဉ်က ဖြစ်ပါ၏။

First obstruction was when future Buddha prince Theidathta took to the forest to live as a recluse.








မဟာသက္ကရာဇ် (၉၇) ခုနှစ်၊ ဝါဆိုလပြည့် တနင်္လာနေ့ ညသန်းခေါင်ယံအချိန်တွင် သက်တော်(၂၉)နှစ်
အရွယ် သိဒ္ဓတ္ထမင်းသားသည် ကဏ္ဍကမြင်းကိုစီးလျက် ...
prince Theidathta at the age of 29 rode Kannaka horse at midnight on the full moon day of
Waso, Monday in the great Myanmar Era 97 and









ထိုအခါ ဘုရားလောင်း
သိဒ္ဓတ္ထမင်းသားကို ဘုရား
မဖြစ်စေချင်သည့် မာရ်
နတ်မင်းသည် ဆီးကြိုဟန့်
တားတော့၏။
Then the Mara
which didn't want future
Buddha prince Sidartha
to become Buddha met
and obstructed.
အို
အသင်မင်းသား..
ညဉ့်သန်းခေါင်ယံအချိန်မှာ
အခြွေအရံနည်းစွာဘာကြောင့်
ထွက်ခွာလာရပါသလဲ
Oh,prince. Why do you
leave with few
attendents at
midnight.


သင်ဟာ
ဘယ်သူလဲ..ဘုရားဖြစ်စေ
ရန် တရားကျင့်ကြံဖို့ ငါ တော
ထွက်လာခြင်းဖြစ်ပေတယ်...
Who are you? I relieve oneself
in the wood to strive to
become Buddha.


အသင်
မင်းသား ကျွန်ုပ်ဟာ
မာရ်နတ်မင်းဖြစ်ပေတယ်
သင့်အတွက်နောက်
(၇)ရက်ကြာလျှင်...
Oh,prince. I am king
Mara. After seven
days


စကြာရတနာ
ဆိုက်ရောက်ပါလိမ့်မယ်..
အဲဒီအခါ လေးကျွန်းသနင်းစကြာမင်း
အဖြစ်ခံယူပြီး တပ်မက်ဖွယ် လောကီ
စည်းစိမ်ကိုခံယူပါ..တောမထွက်ပါနဲ့..
Don't go to the forest retreat. You'll
become the ruler of the four
regions and live in royal
luxury.



အို မာရ်နတ်မင်း တားဆီးခြင်းမပြုပါနဲ့ . စကြာမင်း ဘဝကို ငါမခံယူလိုပါ . သတ္တဝါအများ ကိုကယ်တင်နိုင်မယ့်ဘုရားအဖြစ်ကိုသာ ငါရလိုပါတယ် ...
Oh! Mara. Don't obstruct me. I don't want to accept to be ruler. I want to be Buddhahood can save the creatures.




သိဒ္ဓတ္ထမင်းသားသည် ယင်းသို့ပြတ်သားစွာ မိန့်ဆိုပြီး အနော်မာ သောင်ကမ်းသို့ ဆက်လက်ကြွမြန်းသွားရာ ...
Prince Sidartha told distinctly so and continued going to Anawmar sandbank.




မာရ်နတ်မင်းမှာ ဒေါသ အမျက်ချောင်းချောင်းထွက် လျက် ကျန်ရစ်လေ၏။
The Mara left very angrily.
တောက် တားမနိုင်ဆီးမရပါလား တွေ့မယ် တွေ့မယ် ငါ့ အကြောင်းတစ်နေ့တွေ့ကြ သေးတာပေါ့ ဟင်း ...
Tout! I cann't obstruct. I'll see. See. One day you know about me.




အလောင်းတော် သိဒ္ဓတ္ထမင်းသားသည် အနော်မာသောင်ကမ်းဝယ် ဆံတော်ကို ပယ်ဖြတ်ပြီး သကာလ ...

Future Buddha prince Sidartha cut his hair on the Anawmar sandbank and



ဃဋိကာရ ဗြဟ္မာ ဆက်ကပ်လာသည့် သင်္ကန်းကို လက်ခံကာ ရဟန်းဝတ်တော်မူလေ၏။

accepted the robe Bynma Gadikarra offered and adorned as monk.



ဘုရားလောင်း ရဟန်းသည် ဥရုဝေလတောသို့ ဝင်ကာ ...

Future Buddha monk went to Ouru Wayla forest





ဒုက္ကရစရိယာကျင့်စဉ်ကို ခြောက်နှစ်လုံးလုံး ကျင့်တော်မူလေသည်။

and strived austere practice for six years.



ထို့နောက်မှ သတိတရားရကာ အစွန်းရောက်ကျင့်စဉ်ဖြစ်သော ဒုက္ကရစရိယာကျင့်စဉ်ကိုပယ်လျက် မဇ္ဈိမပဋိပဒါ အလယ်အလတ်ကျင့်စဉ်ကို ကျင့်တော်မူနေစဉ် ဥရုဝေလတော အနီးရှိ သေနာနိဂုံးရွာမှ သူဌေးကတော် သုဇာတာ ဆက်ကပ်သော ဃနာနို့ဆွမ်းကို ဘုဉ်းပေးပြီးနောက် ...

Then he considered and rejected the austere practice which was extreme practice. While he was practising middle way practice he ate milk rice gruel offered by the rich man's wife Thu Zar Tar from Thayna nigone village near Ouru Wayla forest.








ဗောဓိညောင်ပင်ရင်း၌
ယင်းမြက်တို့ကို ဖြန့်ခင်း
တော်မူလိုက်လျှင်ထူးခြား
ဆန်းကြယ်စွာပင် ...

And when Buddha laid the grass under the Bodi banyan tree root.








ထိုအခါတွင် ဘုရားမဖြစ်စေချင်သည့် မာရ်နတ်မင်းသည် ကြီးမားလှသည့် ဂီရိမေခလာ ဆင်ကြီးကိုစီးလျက် နောက်ပါ နတ်ဆိုးစစ်သည်အပေါင်း ခြံရံကာ ဟစ်အော်ကြွေးကြော် ရောက်ရှိလာတော့၏။

Then the Mara who didn't want Buddha to be Buddhahood rode very strong Giri May Kha La elephant with devil soldier followers crying, shouting arrived.

သိဒ္ဓတ္ထကို ဖမ်းကြ ဆီးကြ
Arrest Sidartha.

ဘုရားမဖြစ်အောင် အပြတ်ချေမှုန်းကြ
Suppress not to become Buddha.



မာရ်နတ်မင်းသည် ယင်းသို့ကြွေးကြော်ပြီးလျှင် မုန်တိုင်းလက်နက် ကျောက်ခဲမိုးလက်နက် မိုးကြိုးလက်နက် မီးကျည်လက်နက် စသည့်လက်နက်ကြီး (၉)ပါးဖြင့် ပစ်ခတ်တိုက်ခိုက်လေ၏။

The Mara claimed so and striked with nine weapons such as storm weapon, stone weapon, thunder weapon, fire weapon.



သို့သော် ထိုလက်နက်တို့သည် ဘုရားအလောင်းတော်၏အနီး
သို့အရောက်တွင် ပန်းပွင့်ပန်းကုံးများ ဖြစ်ကုန်ကြတော့သည်။
But when those weapons dropped near future Buddha became and changed to flowers and flower strings.






ယင်းအချိန်မှာပင် ဘုရားအလောင်းတော်သည်
လက်ယာလက်တော်ဖြင့် မဟာပထဝီမြေကြီးကို
ညွှန်ပြတော်မူပြီးလျှင် မိန့်တော်မူလေ၏။
At that time future Buddha pointed out the earth with right hand and gave speech.



ထိုအခါ မဟာပထဝီမြေကြီးသည် အိုးထိန်းစက်ကဲ့သို့ သွက်သွက်လည်ကာ မိုးချုန်းသကဲ့သို့ ပြင်းထန်စွာ မြည်ဟည်းလေတော့၏။

At this time the earth swivelled as the potter's wheel and strongly resounded as thunder.



















မာရ်နတ်မင်းနှင့်အပေါင်းပါ နတ်ဆိုးမိစ္ဆာတို့သည် ကြောက်ရွံ့ထိတ်လန့်ခြင်းကြီးစွာဖြင့် ဖရိုဖရဲ ကစဉ့်ကလျား ထွက်ပြေးကြတော့၏။

The Mara and his followers evils were very frightened and ran away in disorder.



ဤသို့လျှင် ပထမအောင်ခြင်းဖြစ်သော
မာရ်နတ်မင်းကိုအောင်တော်မူပြီးနောက်
တွင်မှ ဘုရားလောင်းတော်သည် အာနာ
ပါန သတိပဋ္ဌာန်တရားကို ဆက်လက်ရှု
ပွားတော်မူရာ ညဉ့်ဦးယံအချိန်တွင်ပုဗ္ဗေ
နိဝါသဉာဏ်တော်ကိုလည်းကောင်း...

In this way after future Buddha was the Mara fisrst and contiuned striving meditational practice of being mindful of respiration and mindfulness doctrine and attained poke bay ni war the intelligence at night and



သန်းခေါင်ယံအချိန်တွင်
ဒိဗ္ဗစက္ခုဉာဏ်တော်ကိုလည်း
ကောင်း အာရုံတက်ချိန်တွင်
အာသဝက္ခယဉာဏ်တော်နှင့်
တကွ သဗ္ဗညုတရွှေဉာဏ်
တော်ကိုလည်းကောင်း ရရှိ
တော်မူပြီးလျှင် ...

divine eye intelligence at midnight and Aathawakkaya intelligence at dawn and omniscience of Buddha and





မဟာသက္ကရာဇ် (၁၀၃) ခုနှစ်
ကဆုန်လပြည့်နေ့မှာပင် ဘုရား
စင်စစ် ကေန်ဖြစ်တော်မူလေ
သတည်း ...

became real Buddhahood on full moon day of Kason in great Myanmar Era 103.



The End



# အာဠာဝကဘီလူးအား အောင်မြင်တော်မူခြင်း

## Lord Buddha's vicotry over Arlarwaka ogre.



မျက်မာန်ဒေါသ . ထောင်းထောင်းထလျက်
စွယ်တက်ငေါငေါ . မြင်သူမောမျှ
နက်ကျောနီကျင် . . မွေးမျှင်မုတ်ဆိတ်
ဖွားရငြိတ်သား . လန့်ထိတ်ဖွယ်သာ
ကြီးရောနှင့် သချာများမြောင်
လေးထောင့်သုံးရာ . နှစ်ဆယ်သာအောင်
များစွာလူသား နေ့တိုင်းစားသည့်
စွမ်းအားကြီးလှ . အာဠာဝကဟု
အမည်ကျော်ဟုံး . ဘီလူးဆိုးအား
တန်ခိုးစက်ရှိန် . ဂုဏ်မဟိမ်ဖြင့်
ချိုးနှိမ်ပယ်နှင်း . အောင်တော်မူခြင်းကား
အောင်ခြင်းဒုတိယ ဖြစ်ပေသတည်း . . . ။

It was very furious and fuming.
very tired to see since with sharp tusk
the back was black and red with
moustache was shaggy and it was
very fearful strength daily ate many
human beings that many numbers of
four thousand three hundred and twenty
and it was greatly strong famous
Aalawaka named Buddha suppressed
and rejected that nasty ogre with might
and power and dignity was second
victory.

သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်တွင် ဂေါတမမြတ်စွာဘုရားရှင် သီတင်းသုံးတော်မူနေစဉ်

When Buddha Gautama stayed in Zetawon manastery in Tharwathti.



အာဠဝီပြည့်ရှင် ဘုရင်မင်းမြတ်သည် သမင်သားကို စားသောက်လိုသော ဆန္ဒကြောင့် မှူးတော်တို့နှင့် တကွ တောထဲသို့ အမဲလိုက်ထွက်တော့၏။

the king of Aalawi wanted to eat meat of deer he went to hunt to the forest with the king's heads.







ကဲ မှူးမတ်များ
ဝိုင်းကြ ဆီးကြပေ့
ကိုယ့်တာကိုယ် လုံပါစေနော်
Ke. Heads. Surround and block. Be safe your own watch


သမင်တို့ကို တောခြောက်ကာ
ဖမ်းသည့်တွင်..
When they beated and arrested the deers.
ဝေး
Wai
ဝေါး
Hay!
ဟိုက်
Hei!


သမင်တစ်ကောင်သည်
မင်းကြီးတာဝန်ယူထား
သည့်တာဘက်မှ ဖောက်
ထွက်ပြေးလေတော့၏။
A deer penetrated from the king's watch.
ဟား ဟား ဟား
ရွှေသမင်ဘယ်ကထွက် မင်းကြီး
တာကထွက်ပါလား ဟား ဟား
Ha. Ha. Ha. Where does golden deer go out. From king's bound. Har. Har. Har.
ဟိုက်
ငါ့တာက ဖောက်ပြေး
သွားပါလား
Hai It penetrated from my watch.


မင်းကြီးလည်း ရှက်ခြင်း ဒေါသဖြစ်ခြင်းတို့ကြောင့် သမင်နောက်သို့ စွတ်ရွတ် လိုက်တော့ရာ ...
The king was shameful and angry. So he rushed to deer.


သမင်ကို လေးဖြင့်ပစ်ခွင်းနိုင်ခဲ့သော်လည်း ...
Although he could shoot the deer with arrow


နေပြည်တော်သို့အပြန်တွင် အဖော်ကွဲပြီး တစ်ပါးတည်း ဖြစ်နေတော့၏။
When he went back to Naypyidaw he was separated and only left.
ဟူး အမှုတော်ထမ်းတွေ မပါလာလို့ သမင်ကို ငါ့ဘာသာ ထမ်းရတာ ပင်ပန်းလိုက်ပါဘိ ဟူး..
I am so tired to carry the deer myself since the servants did not come along.



မင်းကြီးသည် မောပန်းလှသဖြင့် အရိပ်ကောင်းလှသော ညောင်ပင်ကြီးတစ်ပင်အောက်တွင် ဝင်ရောက်အိပ်စက်မိတော့၏။

Since the king was very tired he slept under very good shade of banyan tree.



ထိုအခါ ယင်းညောင်ပင်အောက်သို့ ဝင်ရောက်လာသူမှန်သမျှကို စားခွင့်ရှိသည့် အာဠဝက ဘီလူးကြီးသည် ရုတ်တရက် ရောက်ရှိလာပြီးလျှင် ...

Then the Aalawaka ogre which had right to eat everyone entered immediately arrived.






ဘီလူးကြီး အာဠဝက၏ ကြိမ်းဝါးမှုကို ကြားရလျှင် အာဠာဝီပြည့်ရှင် ဘုရင်ကြီးမှာ ထိတ်လန့်ချောက်ချားသွားရပြီး တောင်းပန်လေတော့၏။

When ogre Aalawaka declaimed and the king heard king of Aalawi was very frightened and trembled and apologized.






အို ဘီလူးမင်း ငါဟာ အာဠာဝီပြည့်ရှင် ဖြစ်ပါတယ်.. ငါ့ရဲ့ အသက်ကို ချမ်းသာပေးပြီး ဒီသမင်သားကိုပဲ စားပါ.. မနက်ဖြန်ကစပြီး သင်စားဖို့ ထမင်းတစ်အုပ်နဲ့ လူတစ်ယောက်စေလွှတ်ပေးပါ့မယ်...
Oh! Ogre. I am king of Aalawi. Please release for my life and have this deer meat. I will send a man with a rice bowl for you to eat since tomorrow.


ထိုအခါ အာဠာဝက ဘီလူးမင်းလည်း သဘောတူသဖြင့် မင်းကြီး၏အသက်ကို ချမ်းသာခွင့်ပေးလိုက်လေသည်။
Then Aalawaka Ogre agreed and released the king.
ဟူး တော်ပါသေးရဲ့
Hu! It's just about right.


မင်းကြီးသည် နန်းတော်သို့ ပြန်ရောက်သော် မှူးမတ် သေနာပတိတို့နှင့် တိုင်ပင်ကာ အမိန့်ချမှတ်လေ၏။
When the king arrived to the palace he consulted with the ministers and commander and ordered.


ထောင်သွင်းအကျဉ်းချထားခံရသူ လူဆိုးသူခိုးတွေကို တစ်နေ့တစ်ယောက်ကျ ထမင်းအုပ်နဲ့ ညောင်ပင်ဆီ စေလွှတ်စေ ...
Send each thief or lawless person arrested in prinson with rice bowl to banyan tree daily.



တို့ကြောင့် အကျဉ်းသားတို့သည်တစ်ယောက်ချင်း ထမင်းအုပ်ပို့သွားရကာ

So each prisoner went to send rice bowl.



အာဠာဝက ဘီလူးမင်း၏အစား ခံရလေသည်...

He was ealen by Aalawaka ogre.



ထောင်ထဲမှ အကျဉ်းသားတို့ကုန်လေလျှင် မင်းချင်းတို့သည် ညဘက်၌ လမ်းဆုံလမ်းခွတို့တွင် ရွှေငွေအဝတ်အထည်ထုပ်တို့ကို ချထားကာ..

When the prinsoners are not left the king's attendants laid the bag of clothes, gold, money on the crossroad at night.







ဟာ ရွှေ ရွှေတွေ ပါလား..ပွတာပဲ ကိုရင် ဗျဂ္ဂဌေးအောင်ရေ..
Har. Those are gold. Lucky Ko Yin Byagga Htay Aung.


ဟေ့ မပြေးနဲ့ သူခိုး ဓားပြတန္တာတွေ
Hey. Don't run. Thief. Robber and robber.
ဟိုက်
Hai!


အမှုဆင်ဖမ်းပြီးလျှင် ညောင်ပင်ဆီသို့ ဆွမ်းအုပ်အပို့ခိုင်းလေသည်။
They arrested trapping case and they made them send food bowl to banyan tree.
လူပါးပုလင်း ထိတာပဲကွာ..တောက် ခံရချက်နာလိုက်တာ..
The bottle hits the clever man. It's too bitter to accept.


ဇော်မိုး အသားက မာဆတ်ဆတ်နဲ့ ဟင်း
Zaw Moe's meat is stiff. Hin!



ယင်းသို့ ထောင်ချောက်ဆင်ဖမ်းသည်ကို ပြည်သူပြည်သားတို့ ရိပ်မိသွားရာ ညဘက်၌ အိမ်ပြင်ထွက်ဝံ့သူပင် မရှိတော့ချေ။
People came to know about the trap to arrest and they dared not go outside from the house at night.




သို့ဖြင့် ရာဇဝတ်သား ရှာမရတော့ရာ လူအိုလူမင်းတို့ကို ပို့ရန်ကြံပြန်တော့လည်း တိုင်းသူပြည်သားတို့က လက်မခံချေ..
In this way they couldn't find prinsoner and when they planned to send the old people, people didn't accept.




နောက်ဆုံး မွေးစကလေးငယ်တို့ကိုသာလိုက်လံဖမ်းဆီးကြရတော့၏။
At last they arrested start born children.






ထိုအခါ ကိုယ်ဝန်ဆောင်မိခင်တို့နှင့်
ကလေးအမေတို့သည် အာဠာဝီပြည်တွင်
မနေဝံ့ကြတော့ဘဲ ရပ်ဝေးသို့ထွက်ပြေး
ပုန်းရှောင်ကြတော့ရာ ပို့စရာကလေးတွေ
မရှိတော့ချေ ...

Then pregnant monthers and children mothers dared not live in Aalawi country run away and hide to the far place so no child to send.






မှူးမတ်တို့လည်း ဘီလူးထံပို့ရန် ဘုရင်ကြီး၏သားတော်လေး
သာရှိပါတော့ကြောင်း လျှောက်တင်ကြရာ ...

The head addressed that there was the king's son only left to send to ogre.






ယင်းအချိန်တွင် ဗုဒ္ဓမြတ်စွာဘုရားသည် အာဠာဝက ဘီလူးနှင့် သတ္တဝါအများ ကျွတ်တမ်းဝင်မည်ကို ရွှေဉာဏ်တော်ဖြင့် သိမြင်တော်မူသဖြင့် ဇေတဝန်ကျောင်းတော်မှနေ၍ အာဠာဝကဘီလူး၏ဗိမာန်ဆီသို့ ကြွရောက်တော်မူလာလေ၏။

At that time Buddha perceived with golden intelligence that Aalawaka ogre and many creatures would be free and so Buddha came to abode of Aalawaka ogre.



အာဠာဝက ဘီလူးမှာ နတ်သဘင်အစည်းအဝေးသို့ တက်ရောက်နေသဖြင့် ဗိမာန်၌ တံခါးစောင့်ဘီလူး 'ဂဒြဘ' သာ ရှိလေသည်။

Aalawaka ogre attended the deities meeting so there was only security ogre gadrabe left.








ဤတွင် တံခါးစောင့်ဘီလူး ဂဒြဘလည်း နတ်သဘင် အစည်းအဝေး ကျင်းပရာသို့ သုတ်ခြေတင် ပြေးရလေတော့၏။

Then security ogre Gadraba ran to deity meeting.



ဘုရားရှင်လည်း ဗိမာန်အတွင်းဝင်ရောက်ကာ ထိုင်တော်မူပြီး ဘီလူးမများနှင့် အခြွေအရံတို့အား တရားဓမ္မ ဟောပြချေချွတ်လျက်ရှိလေသည်။ Buddha entered to the abode and sat and taught female ogre and attendants the moral principles.






အာဠာဝက ဘီလူးမင်းသည် နတ်သဘင်အစည်းအဝေး
မှ ချက်ချင်းထလိုက်လာလေလျှင် သူ၏ကြင်ယာတော်
ဘီလူးမများနှင့် အခြွေအရံတို့ကို မြတ်စွာဘုရားတရား
ဟောပြနေသည်ကို တွေ့ရလေလျှင် ဒေါသအမျက်
ချောင်းချောင်းထွက်သွားတော့၏။

Aalawaka ogre immediately came back from deity meeting and when he saw Buddha was teaching his wives ogress and attendents he was exceedingly angry.









ဒေါသကြီးလှသည့် အာဠာဝက
ဘီလူးမင်းသည် ဘုရားရှင်အား
ဘွဲ့ဖြူလက်နက်အပါအဝင် လက်
နက်မျိုးစုံဖြင့် ပစ်ခတ်တိုက်ခိုက်
တော့၏။
The angry Aalawaka ogre
attacked Buddha with various
weapons included thunder
weapon.




သို့သော် ထိုလက်နက်တို့သည်
ဘုရားရှင်၏ရှေ့တော်မှောက်သို့
ရောက်လေလျှင် ပန်းပွင့်ပေါက်
ပေါက်တို့ ဖြစ်ကုန်ကြတော့၏။
But when those weapons
fell before Buddha they
became flowers and
pop-corn.










ဘုရားရှင် ဗိမာန်မှထွက်လျှင် အာဠာဝကက ပြန်ဝင်စေပြန်၏။
When Buddha got out from abode Aalawaka told to enter.






ဘုရားရှင်ဝင်ပြီးလျှင် တဖန် ပြန်ထွက်ခိုင်းပြန်၏။

After Buddha entered and told him to get out again.

ရှင်ဂေါတမ
ကျွန်ုပ်လက်မခံလိုတော့ပြီ
ခုပင်ထွက်လော့...
Gautama. I don't want to accept. Get out just now.

အင်း ဒီတစ်ခါ
ပြန်ထွက်ရင်တော့ ရဟန်းဂေါတမရဲ့
ခြေနှစ်ဖက်က ဆုပ်ကိုင်ပြီး ဂင်္ဂါမြစ်တစ်ဖက်
ကမ်းရောက်အောင် လွှဲပစ်လိုက်မယ် ဟင်း
Im! when he gets out I will throw him to other side of Gingar river holding Gautama's two feet. Hin!

အချင်း
အာဠာဝက ငါ
မထွက်လိုတော့ပြီ
Friend Aalawaka. I don't want to get out.

ဘာကြောင့်
မထွက်လိုတာလဲ
ရှင်ဂေါတမ
Why don't you want to get out. Gautama.

ငါ့ရဲ့ခြေနှစ်ဖက်ကို
ကိုင်ပြီး မြစ်ရဲ့အခြားဘက်ဆီပစ်ဖို့
သင် ကြံရွယ်နေလို့ ငါ မထွက်လိုပြီ...
I don't want to get out because you have idea to throw me to other side of river holding my two feet.



ဟင် ရဟန်းဂေါတမဟာ တန်ခိုးကြီးရုံမက သူတစ်ပါးရဲ့ဝမ်းထဲက စိတ်အကြံကို သိနိုင်သူပါလား. ကြေ အတော်ဉာဏ်ပညာကြီးမားပုံရတယ်.. သူ့ကိုငါ မိဘအိုးဘွားတွေ အဆင့်ဆင့် လျှို့ဝှက်စွာ လက်ဆင့်ကမ်း သင်ကြားပေးခဲ့တဲ့ မေးခွန်းလေးခု ကို မေးကြည့်လေမှပဲ. ဖြေနိုင်ရင်တော့ ဉာဏ် ပညာကြီးမားသူအဖြစ် ဆရာတင်ရမယ်...

Hin! The monk Gautama is not only powerful but also he can know the plan of other's heart. He seems he has great wisdom certainly. I will ask the four questions my grandparents taught and relayed secretly. If he can answer I will presume as teacher of wisdom.

ဘုရားရှင်ကား အာဠာဝကၢ၏စိတ်အကြံကို သိတော်မူလေ၏။

Buddha know the Aalawaka's plan.

အချင်း အာဠာဝက သင် ငါ့ကို မေးဖို့ရှိတဲ့မေးခွန်းတွေ မေးလော့

Friend. Aalawaka. Ask me what you want.

ရဟန်း ဂေါတမ လောကသုံးပါး၌ ယောကျ်ား မိန်းမတို့၏ အမြတ်ဆုံး ဥစ္စာ ရတနာကား အဘယ်နည်း..

Oh Gautama. Which was the highest precious thing of man and woman in three world.

အချင်း အာဠာဝက လောကသုံးပါး၌ ယောကျ်ား မိန်းမလူ့တကာတို့၏ အမြတ်ဆုံး ဥစ္စာရတနာကား ရတနာသုံးပါး၏ဂုဏ် ကျေးဇူးကို မတုန်မလှုပ် သက်ဝင် ယုံကြည်ခြင်းပင်ဖြစ်တည်း ...

Friend Aalawaka. In three world the highest precious thing of man and woman and all human beings believing the gratitude of three treasures without tremble.




ရဟန်း
ဂေါတမ လှေ့ကျက်ခြင်း
အရာတွင် အဘယ်လေ့ကျက်ခြင်း
ဟာ ချမ်းသာကိုပေးဆောင်ပါသနည်း
The monk Gautama. Which
observing gives wealth
in observing?


အချင်း အာဠာဝက
ကုသိုလ်ဆယ်ပါးတရားကို
လေ့ကျက်ခြင်းဟာ ချမ်းသာကို
ပေးဆောင်ပါ၏။
Friend. Aalawaka observing
ten merits gives
wealth.


ရဟန်းဂေါတမ
အရသာတို့တွင် အဘယ်အရသာ
ဟာ သာလွန်ကောင်းမြတ်သနည်း
The monk Gautama.
Which taste of tastes is
the best?


အချင်း အာဠာဝက
မှန်ကန်ဖြောင့်မတ်သောစကား
သည် ချိုချဉ်ဖန်ခါး အရသာတို့ထက်
သာလွန်ကောင်းမွန်ပါ၏..
Friend. Aalawaka. Straight true
word is better than the taste of
sweet, sour, acrid and
bitter.



ရဟန်းဂေါတမ
အသက်မွေးခြင်း တကာ
တို့တွင် မည်သည့်အသက်မွေး
ခြင်းသည် အမြတ်ဆုံးဖြစ်သနည်း
The monk Gautama. Which is
the highest earning among
all earnings

အချင်း အာဠာဝက
အသက်မွေးခြင်းတကာတို့တွင်
ပညာဖြင့်အသက်မွေးခြင်းသည်
အမြတ်ဆုံးဖြစ်ပါ၏ . .
Friend Ahlarwaka the earning
with learnt knowledge is
the highest among all
earnings.

ရဟန်းဂေါတမ
သင်၏အဖြေအားလုံးမှန်ပါ၏ .
ဉာဏ်ကြီးလှသော သင့်ထံတွင်
တပည့်ခံပါ၏ . ကျွန်ုပ်အား သွန်သင်
ဆုံးမပါလော့ . . .
The monk. Gautama. All answers
are correct. I accept as your
pupil since you are learned
wisdom monk.



ဤတွင် မြတ်စွာဘုရားသည် ဝိပဿနာဆယ်ပါး ဉာဏ်တရားတို့ကို ဟောကြားလျက် ဆုံးမတော်မူလေရာ အာဠာဝကဘီလူးသည် ရှေးဘဝကပြုခဲ့ဖူးသည့် ပါရမီကုသိုလ်တို့၏အစွမ်းကြောင့်ဘုရားရှင်၏တရားတော်ကို နာကြားဆဲမှာပင် အကျွတ်တရားရကာ သောတာပန်တည်လေ၏။

So Buddha taught ten kinds of meditation for insight (wipathana) and while ogre Alarwaka was listening it was free for his merit virture of past existence and became ariya.



ဤသို့လျှင် ဘုရားရှင်က မေတ္တာတော်ရှေ့ထားပြီး အာဠာဝက ဘီလူးမင်းအပေါ် အောင်နိုင်ခဲ့ခြင်းပင် ဒုတိယအောင်ခြင်း ဖြစ်ပါသတည်း...

So Buddha wished ogre Alarwaka well and such winnig was second victory.






# နာဠာဂီရိဆင်ကို အောင်မြင်တော်မူခြင်း

## Lord Buddha's vicotry over rogue elephant Narlarghiri



ဆယ့်ခြောက်မောင်းအိုး . ဖြိုးဖြိုးပြည့်နက်
သေအရက်ကို . . သောက်လျက်မာန်ကြွ
ဆိုးသွမ်းလုစွာ . စိုင်းဝင်လာသော
နာဠာဂီရိ . မည်ရှိဆင်ပြောင်
မာန်ဆောင်ညွတ်ကျိုး . တန်ခိုးစက်ရှိန်
ဂုဏ်မဟိန်ဖြင့် ချိုးနှိမ်ပယ်ရှင်း
အောင်တော်မူခြင်းကား . .
တတိယအောင်ခြင်း ဖြစ်ပေသတည်း . . ။

It drank sixteen alcohol pots and
was profuse and full.
Drinking alcohol it was conceited
and unruly running at full blast.
It was elephant named Narlargiri.
It was supressed to bow
with power and dignity.
It was third victory.




ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရမင်းကြီး နတ်ရွာမစံမီကပင် ဒေဝဒတ်၏တပည့် အဇာတသတ်သည် ဘုရင်ဖြစ်လာရာ..
Before king Beimbithara of Yazagyo country died Azartatha the follower of Devadhatta became king.


ဒေဝဒတ်မှာမူ မြတ်စွာဘုရားအား သတ်ဖြတ်လုပ်ကြံရန် အမျိုးမျိုးကြံသော်လည်း အထမမြောက်နိုင်ချေ..
Although Deiwadat intended to kill Buddha differently it was in vain.


ဂွပ်..
Khwat!






ဒေဝဒတ်သည် ယင်းသို့တွေးကြံပြီးလျှင် အဇာတသတ်နှင့်တိုင်ပင်ကာ နာဠာဂီရိဆင်ထိန်းထံ သို့သွားကာ စည်းရုံးလေ၏။

Devadhatta considered so and he consulted with Azartatha and he went to elephant, Narlargi's keeper and organized.








မင်းဆရာဖြစ်တဲ့
ငါ စေခိုင်းရာကို သင်လုပ်ရင်
သင်ရာထူးတိုးရစေ့မယ်.. ခိုင်းရာကို
လုပ်မလား..
If you do as I order as your head you will get promotion at your job. Will you do as I order.

လုပ် လုပ်ပါ့မယ်
အရှင်.. ခိုင်းလိုရာခိုင်းပါ
I will do. Please make me do as you want.

မနက်ဖြန်ကျရင်
ဒီ နာဠာဂီရိဆင်ကြီးကို အရက်
တစ်ဆယ့်ခြောက်အိုးတိုက်ပြီး ရဟန်း
ဂေါတမ ဆွမ်းခံလာတဲ့လမ်းဆီလွှတ်ပေးစမ်း
Tomorrow, let drink this Narlargiri elephant sixteen pots of alcohol and release on the way of the monk Gautama goes round to accept offering food.

ကောင်း
ကောင်းပါပြီ အရှင်
Ok. Lord.



အဇာတသတ်မင်းလည်း လမ်းပေါ်တွင် လူရှုပ်ပါက ဂေါတမမြတ်စွာဘုရားကို မနင်းမိဘဲအခြားသူတို့ကို နာဠာဂီရိဆင်ကြီး နင်းမိမည်စိုးသဖြင့် မင်းချင်းတို့အား တိုင်းပြည်အတွင်း မောင်းကြေးနင်းလည်ခတ်စေ၏။ If it was crowded on the road Narlargiri would not step on Buddha Gautama and it would step on others. So King Azatatha worried and ordered the attendants to make announcement around the country by the beat of a gong.









ဤတွင် ဒေဝဒတ်၏ပက်စက်သောအကြံကို ရိပ်မိသိရှိသွားကြသည့် ဥပသကာတို့သည် ဇေတဝန်ကျောင်းတော်သို့သွားပြီး ဘုရားရှင်အား စိုးရိမ်တကြီး လျှောက်ထားကြလေ၏။

Then the male Buddhist lay Devadhatta guessed the despicable idea of Deiwadat and went to Zetawon monastery and addressed Buddha with worries.












ဟုတ်ပါတယ်
ဘုရား ဒါကြောင့်မို့ မနက်
ဖြန်မနက်မှာ မြို့တော်အတွင်း
ဆွမ်းခံကြွတော်မမူပါနဲ့ ဘုရား. . .
It is true. Buddha. So pleae don't go round to accept offering food in tomorrow morning.


တပည့်တော်တို့
ဆွမ်းလာပို့ပါ့မယ် ဘုရား
We will come and offer food.


ယင်းသို့ ဝိုင်းဝန်းလျှောက်ထားသည့်တွင် ဘုရားရှင်က မည်သို့မှ မမြွက်ကြားဘဲ ဆိတ်ဆိတ်နေတော်မူလေ၏။
when they all addressed Buddha replied nothing and was silent.



နောက်နေ့ နံနက်တွင်မှ ဘုရားရှင်သည် နာဠာဂီရိဆင်ကို အကြောင်းပြုလျက် သတ္တဝါအများ ကျွတ်တမ်းဝင်မည်ကို သိတော်မူသဖြင့် ကျောင်းတိုက်ကြီး (၁၈)တိုက်မှ ရဟန်းများအား ဦးဆောင်ကာ ရာဇဂြိုဟ်မြို့အတွင်းသို့ ဆွမ်းခံကြွတော်မူလေ၏။

In next morining Buddha perceived that many creatures will free basing Narlargir elephant he led monks from 18 monastries and went round to accept offering food in Yarzagyo town.



ယင်းအချိန်တွင် ဒေဝဒတ်၏စေခိုင်းချက်အတိုင်း ဆင်ထိန်းသည် အရက် (၁၆)အိုးတိုက်ထားသော နာဠာဂီရိဆင်ကြီးကို ဆင်တင်းကုပ်မှ ထုတ်လာပြီးလျှင် ဘုရားရှင်တို့ကြွလာရာလမ်းသို့ ဦးတည် စေလွှတ်လိုက်တော့၏။

At that time according to Devadhatta's order elephant keeper took out the elephant Narlargiri drunken 16 pots of alcohol from the elephant shed and sent directly to the way of coming Buddha.






မြို့တော်သူ မြို့တော်သားတို့လည်း ဘုရားရှင်နှင့်ရဟန်းသံဃာတော်များ အတွက် စိုးရိမ်ခြင်းကြီးစွာဖြင့် မိမိတို့၏အိမ်ခြံဝိုင်းများအိမ်ပြတင်းပေါက်များ ဝရန်တာများမှ စောင့်ကြည့်နေကြလေ၏။

The people of the town were very worried for Buddha and the monks. So they watched from their compounds, windows of the homes and veranda.



ဘုရားရှင်အား ပျက်စီးစေလိုသည့် တက္ကတွန်းတို့လည်း သစ်ပင်များပေါ်သို့တက်ကာ အားရဝမ်းမြောက်စွာ စောင့်ကြည့်နေကြလေသည်။

Heretics who want to Buddha to ruin also watched climbing on the trees with rejoicing.








အရက်လွန်စွာမူးနေသည့် နာဠာဂီရိဆင်ကြီးသည်ကား ဘုရားရှင်ရှိရာသို့ ဦးတည်လျက် လေမုန်တိုင်းကြီး ရွေ့လာသည်နှယ် ကဆုန်ဆိုင်းလာတော့၏။

Drinking alcohol very dizzy Narlargiri elephant directed to the Buddha and galloped as the big storm moved.




ထိုအခါ ရှင်သာရိပုတ္တရာနှင့် ရှင်အာနန္ဒာတို့က စိုးရိမ်တော်မူစွာ ဘုရားရှင်ထံ ခွင့်ပန်ကြလေသည်။

Then Shin Thari Putra and Shin Anandar were worried and asked permission.












ဘုရားရှင်သည် မည်သည့်
သာဝကကိုမျှ သူ့ရှေ့မှရင်ဆိုင်
ခွင့်မပြုဘဲ သူသာရှေ့မှာရပ်
တည်တော်မူလျက်ရှိစဉ်...

Buddha didn't allow any diciple to face with and when he was standing before them



ဆင်ကြီး၏ပြေးလမ်းတွင်ရှိနေသော သား
ငယ်ကိုချီလာသည့် ကလေးအမေတစ်ဦးသည်
ဆင်ကြီးပြေးလာနေသည်ကိုမြင်လျှင် လွန်စွာ
ထိတ်လန့်ပြီး ထွက်ပြေးလေ၏။

a child's mother carrying his son was on the way of elephant's running saw and run away and she was very frightened.




ထိုအခါ နာဠာဂီရိဆင်ကြီးသည် အာရုံပြောင်းသွား
ပြီး ထိုကလေးအမေကို နင်းချေရန်လိုက်လေရာ
ဘုရားရှင်က တားမြစ်တော်မူလေသည်။

Then Narlargiri changed sense and followed to child's mother to tread on. So Buddha forbade.








နာဠာဂီရိဆင်ကြီးသည် မြတ်စွာဘုရား၏ချိုမြိန်လှသော အသံတော်ကိုကြားရလေလျှင် လှမ်းလက်စခြေလှမ်းကိုတန့်ကာ လှည့်ကြည့်လေ၏။

When Narlargiri heard Buddha's sweet voice it stopped the step and looked and turned.





ထိုအခါ မြတ်စွာဘုရား၏လွန်စွာကြည်ညိုဖွယ်ကောင်းသော ရူပကာယအဆင်းတော်ကိုဖူးမြင်ရလေရာ အရက်မူးခြင်းတို့ ရုတ်ချည်းပျောက်သွားလျက် မာန်ဝင့်ကာ မြှောက်ထားမိသည့်နှာမောင်းကိုအောက်သို့တဖြည်းဖြည်းချလိုက်လေသည် ...

Then it beheld Buddha's admirable personality its dizziness disappeared immediately it turned down its trunk raising with pride gradually.

နားရွက်နှစ်ဖက်ကိုလည်း တဖျတ်ဖျတ်ခတ်နေရာမှ ဘုရားရှင်ရှိရာဆီသို့ ခပ်ဖြည်းဖြည်းလှမ်းလာပြီးလျှင် ဘုရားရှင်၏ခြေတော်ရင်းတွင် ဝပ်စင်းခစားလေတော့၏။

It was fluttering its two ears and stopped gradually to Buddha and bowed and waited upon on the Buddha's feet.



မြတ်စွာဘုရားအတွက် စိုးရိမ်ကြီးစွာ စောင့်ကြည့်နေကြသည့် ရဟန်းရှင်လူတို့လည်း ဆင်ရိုင်းကြီး၏အပြုအမူကြောင့် လွန်စွာ အံ့အားသင့်သွားသည့်အပြင် သက်ပြင်းမောလည်း ချမိကြလေသည်။
The monks and people watching worriedly for Buddha were very surprised for the behaviour of rogue elephant and sighed.




မြတ်စွာဘုရားသည် နာဠာဂီရိဆင်ကြီး၏ ဦးကင်းကို လက်ယာလက်တော်ဖြင့် သုံးသပ်လျက် ဆုံးမစကားမြွက်ကြားတော်မူလေ၏။
Buddha stroked with right hand Nardargiri's forehead and taught.









ထို့နောက် မြတ်စွာဘုရားသည် မေတ္တာတရားတော်တို့ကို ဟောကြားတော်မူလေရာ နာကြားကြရသည့် မြို့သူမြို့သားအပေါင်းတို့မှာ အကျွတ်တရား ရကုန်ကြလေ၏။

Then Buddha taught for kindness nature and the listening people from the town obtaned disillusionment.



နူးညံ့သိမ်မွေ့သွားသည့် နာဠာဂီရိဆင်ကြီးကိုလည်း ချစ်ခင်သနား မေတ္တာပွားကြလျက် ပိုးပဝါ ပိုးသဘက် စသည့်အဖိုးတန်ပစ္စည်းတို့ကို ဆုလာဘ်အဖြစ် ချီးမြှောက်ကြရာ နာဠာဂီရိဆင်ကြီးကို ဓနပါလဟူ၍ အမည်ခေါ်တွင်ကြလေသည်။

They were kind and pity and they loved Narlargiri which became gentle and gave silk scarf, silk towel etc as award. They named Narlargiri elephant as Dana Parla.



ထိုအချိန်မှစ၍ နာဠာဂီရိဆင်ကြီးမှာ ဘုရားရှင်၏ဥပါသကာဆင်ကြီး ဖြစ်သွားပါတော့၏.. ဤသို့လျှင် နာဠာဂီရိဆင်ကြီးအပေါ် အောင်နိုင်ခဲ့ခြင်းသည်ပင်တတိယ အောင်ခြင်းဖြစ်ပါသတည်း...

Since then Narlargiri elephant became Buddha's devotee elephant. Such winning on Narlargiri elephant was third victgory of Buddha.








# အင်္ဂုလိမာလကို အောင်မြင်တော်မူခြင်း

## Lord Buddha's vicotry over Inghulimala



တောမြိုင်တရိုး၊ ပုန်းကွယ်လျှိုး၍
တဟုန်ထိုးသော သုံးယူဇနာ
ရှည်စွာချင့်မှန်း၊ ခရီးလမ်းကို
မပင်မပန်း၊ ပြေးနိုင်စွမ်းလျက်
ပြိုင်သူဘက်ရှား လူအများကို
လှံဓားဆွဲကာ ဖမ်းသတ်ရာတွင်
ယူငင်လက်ညှိုး၊ ကြိုးဖြင့်သီထုံး
ပန်းကုံးအသွင် လည်ဝယ်ဆင်သူ
အင်္ဂုလိမာလ ကြမ်းတမ်းလှသူ
စောရမြည်ဟည်း၊ သူခိုးကြီးအား
တန်ခိုးစက်ရှိန် ဂုဏ်မဟိန်ဖြင့်
ချိုးနှိမ်ပယ်နင်း၊ အောင်တော်မူခြင်းကား
အောင်ခြင်း စတုတ္ထဖြစ်ပေသတည်း ...။

Hiding along the forest
and galloped three yozana trip and
was untiredly able to run
having rare rival to kill numerous
human beings holding spears and
knives-he took the index fingers and
strung with rope as flower string and
wore on his neck. He Inghulimala
was very rough and named Sawya,
great thief was achieved by might and
dignity of Buddha. This vicotry
was fourth vicotry.



သာဝတ္ထိပြည်တွင် ဘုရင်ကောသလမင်းကြီး စိုးစံလျက်ရှိစဉ် ပုဏ္ဏားလင်မယား၌ အဟိံသက အမည်ရှိသော သားတစ်ယောက်ကို ဖွားမြင်လေ၏။
When the king Kawthala was ruling in Thawathti country the Bramin couple born a son named Aheinthaka.



အဟိံသက အရွယ်ရောက်လေလျှင် မိဘများက တက္ကသိုလ်ပြည် ဒိသာပါမောက္ခဆရာကြီးထံ စေလွှတ်လျက် ပညာသင်ကြားစေ၏။
When Aheinthaka was grown up his parents sent him to the professor in Taxila to learn.






အဟိံသကမှာ ပညာကိုကြိုးစားသင်ယူသလို ...
As Aheinthaka tried learning hard


ဆရာကြီးတို့၏ အိမ်မှုကိစ္စတို့တွင် အလိုက်သိစွာ ဝင်ရောက်လုပ်ကိုင် ဆောင်ရွက်ပေးရာ ...
he did the domestic affairs of professor appropriately


ဆရာကတော် ဒီထင်းတွေ ကျွန်တော် ခွဲလိုက်ပါ့မယ်ခင်ဗျ
Madam. I will chop these firewood.


အင်း အဟိံသကဟာ အတော် အလိုက်သိတဲ့လူငယ်ပဲ
Em! Aheinthaka is aware of other's wishes.

အစစအရာရာ အကူအညီပေးတတ်သူမို့ ဆရာကတော်က အဟိံသကအပေါ် အရေးပေးရာ အခြားတပည့် အချို့သည် အဟိံသကအား မနာလိုမရှုစိမ့် ဖြစ်နေကြတော့၏။

Since he helped for everything the professor's wife gave Aheinthaka favour so some pupils were jealous Aheinthaka.











ထိုသူတို့သည် အကောက်ဉာဏ်ဖြင့် ဒိသာပါမောက္ခဆရာကြီးထံပါးသို့ ပုန်းလျှိုးကွယ်လျှိုး ချဉ်းကပ်ကာ ကုန်းတိုက်တော့၏။

They stealthily to professor with wicked idea and slandered.















ဒိသာပါမောက္ခဆရာကြီးသည် စကြားစဉ်က မယုံသော်လည်း တစ်ဦးပြီးတစ်ဦး သတင်းလာလာပေးနေသဖြင့် ကြာသော် ဟုတ်လိမ့်နိုးနိုးထင်လျက် အဟိံသကအပေါ် သံသယပွားလာတော့၏။

The professor didn't believe when he heard first but since one after another gave the news later he thought it might be true. And he increased doubts on Aheinthaka.









သို့ဖြင့် ဒိသာပါမောက္ခဆရာကြီးသည် အဟိံသက
ကို တစ်ဦးချင်း တီးတိုးပြောလေ၏။
The professor whispered Aheinthaka.










ပြောပါ ဆရာကြီး ဘာပေးရမလဲ အသပြာလား ခင်ဗျာ
Tell me. What shall I give. Is it money?


မဟုတ်ဘူး လူ့လက်ညှိုးပေါင်းတစ်ထောင် ထိတိဖြတ်ပြီး ငါ့ဆီယူလာခဲ့.. ဒါဆို သင့်ကိုသင်လို့ရပြီ...
No. Bring me one thousand index fingers after cutting and then you will be taught.


ကောင်းပါပြီ ဆရာကြီး လိုရာကိုရစေပါ့မယ်
All right. Professor. You will get what you want.


အဟိံသကသည် ပညာကိုလွန်စွာလိုလားသူဖြစ်သဖြင့် ဆရာကြီးရှာဖွေခိုင်းသည့် လက်ညှိုးပေါင်းတစ်ထောင် ရနိုင်စေရန် တောသို့ လက်နက်မျိုးစုံ ယူဆောင်လျက် ဝင်စေ၏။
Since Aheinthaka was willing for knowledge he went to the forest taking various weapons to get one thousand index fingers the professor told to find.



အဟိံသကသည် တောတွင်းသို့ဝင်ကာ တောထဲသို့ဖြတ်သန်းလာသမျှ ခရီးသွားတို့ကို ဖမ်းဆီးသတ်ဖြတ်လေ၏။
Aheinthaka entered the forest and killed every travelers who passed the forest.

တက္ကဒွန်း ဌေးအောင်လာနေပြီ ဟင်း ဟင်း
Tekadun Htay Aung. Coming. Hin! Hin!

ဟိတ် မပြေးနဲ့
Hey! Don't run.

အောင်မလေး ကယ်ကြပါဦး
Oh! Save me.

ကဲဟာ
Ke Har!

အား
Ah!

ဖြတ်ပစ်လိုက်တာ တောင်လက်ညှိုးက တောင်ထိုး မြောက်ထိုးထိုးချင်သေးတယ်
Even cutted the index finger wants to point south and north.



သူ သတ်ဖြတ်ပြီးသည့် လူများ၏လက်ညှိုးများကိုဖြတ်ကာ ကြိုးဖြင့်သီပြီး ပန်းကုံးနယ် လည်ပင်းတွင် ဆွဲထားလေသည်။

After he killed the human beings he cut the index fingers of them and strang with rope and wore in his neck as the garland.






ယင်းသို့လျှင် လက်ညှိုးတို့ကို ပန်းကုံးနယ် သီကုံးဆွဲထားသဖြင့်လည်း 'အင်္ဂုလိမာလ'ဟု အမည်တွင်ခြင်း ဖြစ်ပေ၏။ အင်္ဂုလိမာလ ဆိုသည်မှာ မြန်မာလို 'လက်ညှိုးပန်းကုံး' ဟု အဓိပ္ပာယ်ရလေသည်။

In such way he strang the index fingers as garland and he was named as Inghulimala. Enguli Marla in Myanmar meant index finger flower string.





ခရီးသွား လူအများသည် အသက်ဆုံးရှုံးဖန်များလာသဖြင့် ကောသလမင်းကြီးထံ တိုင်ကြားကြလေသည်။
Many travellers died and it was complainted to king Kawthala.







အင်္ဂုလိမာလကို ကောသလမင်းကြီးကိုယ်တိုင် နှိမ်နင်းဖမ်းဆီးတော်မူမည်ဆိုသော သတင်းသည် မြို့ရွာအနှံ့သို့ ပြန့်နှံ့သွားလေ၏။ The news to arrest Inghulimala by king Kawthala himself was spread through town and village.






ထိုအခါ မိခင်ဖြစ်သူ မန္တာနီ ပုဏ္ဏေးမကြီးသည် သားဖြစ်သူ အင်္ဂုလိမာလအတွက် စိုးရိမ်ပူပန်ခြင်းကြီးစွာဖြင့် သတိပေးရန်တောသို့ တစ်ဦးတည်းသွားလေ၏။

Then his mother, female Bramin, Mantarni was very worried for her son Inghulimala and went to forest to warn alone.












ဟင် အမေပါလား
Hin! She is my mother.
အမေက ဘာဖြစ်လို့ ဒီတောထဲ ဝင်လာရတာလဲ
Why does mother enter to this forest?
အို အမေမကလို့ ဘယ်သူပဲဖြစ်ဖြစ် ငါ လိုအပ်နေတဲ့ လက်ညှိုးတစ်ချောင်းရဖို့ပဲအရေးကြီးတယ် အမေလည်း သတ်ရမှာပဲ
Oh! Mother or whoever may be. It is important to get an index finger that I need. I will kill mother also.
သို့ဖြင့် အင်္ဂုလိမာလသည် မိခင်ကိုပင် သတ်ရန်ကြံပြီး အပြေးလိုက်လေတော့၏။
As such Inghulimala considered to kill his mother and ran and followed.


ယင်းအချိန်တွင် ဘုရားရှင်သည် အင်္ဂုလိမာလအား ချေချွတ်ချိန်ရောက်ပြီကို သိမြင်တော်မူသဖြင့် ထိုတောအုပ်အတွင်းသို့ ကြွရောက်လာရာ..
At that time Buddha perceived that it was the time to deliver from his wrong deed. So Buddha came to the forest.


ဟာ ဘယ်က ရဟန်းကြီးရောက်လာပါလိမ့် အမေ့ကိုသတ်မယ့်အစား သင်းကိုပဲ သတ်တော့မယ်...
Har! Where does that monk come. It is suitable. I will kill him instead of mother.


အင်္ဂုလိမာလလည်း ဘုရားရှင်အား သတ်ဖြတ်ရန် အပြေးလိုက်လေတော့၏။
Inghulimala ran and followed to kill Buddha.
တွေ့ပြီ ပေါ့ကွာ ဟင်း
Will meet. Hin!


သို့သော် ဘုရားရှင်၏တန်ခိုး၊
တော်ကြောင့် အင်္ဂုလိမာလသည်
အသည်းအသန် ပြေးလိုက်သော်
လည်း၊ ဘုရားရှင်ကို လိုက်မမီ
ဘဲ ဖြစ်နေလေတော့၏။
But because of might of Buddha although Inghulimala crucially ran he couldn't catch Buddha.


မောလည်းမော ဒေါသလည်းထွက်လာသည့်
အင်္ဂုလိမာလက အော်ပြောတော့သည်။
Inghulimala was very tired and angry and shouted.
ရဟန်းကြီး ဘာဖြစ်လို့ ဒီလောက် ပြေးတာလဲ ရပ် ဓ ရပ်
The monk. Why do you run so? Stop. Stop just now.


အို ချစ်သား အဟိံသက ငါကား မပြေး ရပ်နေတယ် သင်သာပြေးနေရခြင်းဖြစ်ပေတယ်
Oh! Son. Aheinthaka. I don't run. I am standing. Only you are running.


ဘုရားရှင်၏စကားဆန်း
ကြောင့် အင်္ဂုလိမာလသည်
အံ့သြနားမလည်နိုင် ဖြစ်
သွားရလေသည်။
For the Buddha's strange words Inghulamala was very surprised and couldn't understand.
?


အို ရဟန်းကြီး ကျွန်ုပ်လိုက်လို့မရပါ လျက် သင် မပြေးပါလို့ဘာ ကြောင့်ပြောရတာပါလဲ..
Oh. Monk! Why do you say you are not running although I cann't chase you.


အဟိံသက ငါဘုရားဟာ သူတစ်ပါးရဲ့အသက်ကို သတ်ဖြတ်ခြင်းစတဲ့ အကုသိုလ်အလုပ်တွေကို မလုပ်တဲ့အတွက် သံသရာမှာ မရပ်မနား လှုပ်ရှားပြေးလွှားစရာ မလိုတော့ပါ.. ဒါကြောင့် ငါဟာ မပြေး ရပ်နေတယ်လို့ ပြောရတာပဲ အဟိံသက..
Aheinthaka. Because I, Buddha does not do wrong deeds such as killing other's life I am no need to act and run without stop in Sansara. So I say I don't run and I am standing. Aheinthaka.


သင်ကတော့ သူတစ်ပါးရဲ့အသက်ကိုသတ်ခြင်း စတဲ့ မကောင်းမှုဒုစရိုက် ဆယ်ပါးကို ကျူးလွန်နေသူမို့ သံသရာမှာ မရပ်မနား ပြေးလွှားနေရတာပါပဲ.. ဒုစရိုက်မှုများကို စွန့်လွှတ်ပြီး ငါကဲ့သို့ သင် ရပ်သင့်ပြီ..
You are running and acting in Samsara because you commit ten wrong deeds such as killing other's life. You should give up wrong deeds and stop like me.





ဘုရားရှင်၏ဆုံးမစကားကို ကြားနာရလေလျှင် ဘဝ ဘဝက ပါရမီရှင် သန်ခဲ့လေသည့် အင်္ဂုလိမာလသည် သတိသံဝေဂရသွားပြီး ဓားကို လက်မှချလျက် ဝန်ချတောင်းပန်လျှောက်ထားလေသည်။
When Inghulimala heard Buddha's teaching because of high virtues of his past life he considered and repented and he dropped his knife and addressed.










ဖော်ပြပါအတိုင်း အင်္ဂုလိမာလကို အောင်မြင်တော်မူခြင်းသည် ပင် စတုတ္ထ အောင်တော်မူခြင်း ပင်ဖြစ်ပါ၏။
This is fourth victory to Enguli Marla as described.



The End.



# စိဉ္စမာဏအား အောင်တော်မူခြင်း

## Lord Buddha's victory over Seinamarna



ဘုရားရှင်ကို..ကိုယ်ဝန်ရင့်မှာ
သင့်ကြောင့်သာဟု..နှုတ်စွာရဲရဲ
စွပ်စွဲဆိုလာ...စိဉ္စမာဏ
မိန်းမယုတ်မာ..မိမာယာအား
တန်ခိုးထွားရှိန်..ဂုဏ်မဟိမ်ဖြင့်
ချိုးနှိမ်ပယ်ရှင်း...အောင်ခြင်းသည်ပင်
အောင်ခြင်း ပဉ္စမဖြစ်ချေတည်း ...။

Buddha was accused daring verbally by Seinsamarna that she had pregnanacy of Buddha. Buddhat suppressed this wicked guile woman with his might and dignity and it was fifth victory.



ဂေါတမမြတ်စွာဘုရားရှင် လက်ထက်တော်တွင်
သာဝတ္ထိတစ်ပြည်လုံး ဘုရားရှင်နှင့်သံဃာတော်များအား
ကြည်ညိုမြတ်နိုးစွာဖြင့် ကိုးကွယ်ပူဇော်ကြ ဆွမ်းကျွေး
ကပ်လှူကြဖြင့် စည်ကားသိုက်မြိုက်လျက်ရှိရာ. .

At the age of Buddha the whole Thawathti country was alive with teeming crowd for they admired Buddha and monks and worshipped and offered food.



ကိုးကွယ်ဆည်းကပ် လှူဒါန်းပေးကမ်းမည့်သူ
ရှားပါးလာသည့် တိတ္ထိဆရာကြီးတို့မှာ လွန်စွာ
မနာလို မရှုစိမ့်ဖြစ်လာကြတော့၏။

The heretics who became rare to be worshipped or donated were very jealous.









ဒီအတိုင်းဆိုကြာရင်
ကျုပ်တို့ခန္ဓာပြတ်ကိန်းမြင်တယ်ဗျ
ခုပဲ ကျုပ်တို့ကျောင်းမှာ ဆန် ဆီ
ဆားကအစ ပြတ်လပ်နေပြီ..
In this way we will be starved.
In our monastery now, the rice,
oil, salt etc everything
were cutoff.


အေးဗျာ ရဟန်းကြီး
ဂေါတမရဲ့ကျောင်းမှာကျ အလျှံ
ပယ်ပဲတဲ့ဗျ.. ကျုပ်တို့ကျတော့ ကြာလေ
လှူမယ့်တန်းမယ့်သူ ကိုးကွယ်ဆည်းကပ်သူ
နည်းလေပဲ.. လူတွေက ရဟန်းကြီး
ဂေါတမကိုပဲ လွှတ်ကြည်ညိုနေကြတာ
ကလား..
There are plentiful food at
Gautama monestery. For us
the loss people to donate and
worship the longer time. All
people admire only Gautama.


အင်း သင်းကို
အကြည်ညိုပျက်အောင်
လုပ်နိုင်ရင်တော့ လူတွေက ကျုပ်
တို့ကို ပြန်ပြီးကြည်ညိုဆည်းကပ်
လာနိုင်တယ်ဗျ..
The people will return to us
and admire again if we can
make shattering the
admiration on him.



သို့ဖြင့် တိတ္ထိဆရာကြီးတို့သည် ဘုရားရှင်အား လူတို့အကြည်ညို ပျက်စေရန် ပက်စက်ယုတ်မာသော အကြံအစည်ကို ကြံစည်ကြ တော့၏။
Like that the heretics planned to shetter people's admiration on Buddha wickedly.

စိဉ္စမာဏ
Seinsa Marna.

ရှင်
What?

ရှင်ကြီးဂေါတမကို လူပုံအလယ်အရှက်ကွဲ သိက္ခာကျအောင် နင်လုပ်ရမယ် သိလား..အဲဒီလိုလုပ်တဲ့အတွက် နင်သုံးဖို့ အသပြာငွေ ငါတို့ပေးမှာပေါ့ဟယ်...
You must do the monk Gautama to be shameful and less dignity among the people. For this we will give you money to you.

ဘာ ဘာလုပ်ရမှာလဲ အရှင်ကြီးတို့
What shall I do. Sirs?

ဒီ ဒီလိုဟဲ့...
Such...



စိဉ္စမာဏသည် သူမ၏တိတ္ထိဆရာကြီးများ စေခိုင်းသည့်အတိုင်း ထိုနေ့ ညနေမှစ၍ ဗုဒ္ဓမြတ်ဘုရား သီတင်းသုံးနေထိုင်ရာ ဇေတဝန်ကျောင်းတော်သို့သွားရာ..

As the heretics ordered Seinsa Marna went to Zatawon monastery of Buddha from that day evening.



ဘုရားရှင်အား ဖူးမြော်ပြီး ပြန်လာကြသည့် လူသူပရိသတ်က စိဉ္စမာဏ အား တွေ့လေလျှင် နှုတ်ဆက်မေးမြန်းခြင်းပြုကြလေ၏။

The audience who come back from worship of Buddha saw Seinsa Maran and they greeted and asked her.









စိဥ္စမာဏသည် ဇေတဝန်ကျောင်းဝင်းထဲသို့ ဝင်ရောက်သွားပြီးနောက် ည လူခြေတိတ်မှ ပြန်ထွက်လာကာ ...

Seinsa Marna went to Zatawon monastery and went back when the audience subsided.

တိတ္ထိဆရာကြီးတို့၏ကျောင်းသခ်ိန်း၌ တစ်ည လုံးအိပ်စက်လေ၏။

And she slept in the monastery of heretics all night.



နောက်နေ့ အရုဏ်မတက်မီ အိပ်ရာမှထပြီး ဇေတဝန်ကျောင်း သို့သွားကာ ကျောင်းဝင်းထဲဝင်နေလျက်...

Before dawn of the next day she got up and went to Zetawon monastery and entered the compound.





မိုးစင်စင်လင်းပြီး လမ်းသွား လမ်းလာတို့ မြင်လောက်မှ ဇေတဝန်ကျောင်းဝင်းထဲမှ ပြန်ထွက်လာရာ တွေ့မြင်သူအပေါင်းက မေးမြန်းကြလေသည်။

She went out from the Zetawon monastery when the passer-by saw her at daybreak. The people saw her asked.

ဟဲ့ စိဉ္စမာဏ စောစောစီးစီး ဘယ်က ပြန်လာတာတုံးကွယ့်

He! Seinsa Marna. Where do you come from so early?

အို ဘယ်က ပြန်လာရမှာတုံး.. ဇေတဝန်ကျောင်းထဲက ထွက်လာတာ ရှင်တို့ မတွေ့ကြဘူးလား..

Oh! Where shall I come from? Don't you see I am going out from Zetawon monastery.

မနေ့ညနေတုန်းက စိဉ္စမာဏဇေတဝန်ကျောင်းဝင်းထဲ ဝင်သွားတာ ကျုပ်တွေ့လိုက်ပါတယ်.. ခုမှပြန်ထွက်လာတာ ဟုတ်လား..

I saw Seinsa Marna went to Zetawon monastery compound yesterday evening. Do you come back now?

ဟုတ်တယ်လေ ဟင်း ဟင်း ညနေစောင်းကတည်းက ရှင်ကြီးဂေါတမကို တစ်ညလုံးပြုစုနေခဲ့ရတာလေ ကဲ ရှင်းပြီလား

Yes. Hin! Hin! I had to look after the monk Gautama the whole night since evening. Are you clear?

ရှင်.. အဲ.. မရှင်.. အဲ.. ရှင်.. ရှင်းပါပြီ..

Oh, I am not. Ee! It's clear.



သို့လျှင် လူသူလေးပါးအထင်မှား သံသယပွားစေရန် ပရိယာယ်ကြွယ်ကြွယ် ဟန်အမူအရာကောင်းကောင်းဖြင့် သရုပ်ဆောင်ခဲ့သည်မှာ ခြောက်လခန့်မျှ ကြာမြင့်ခဲ့ချေပြီ . . .

Then it fell six months that she acted in good behaviour and with much trick so that people were doubtful.






ဝမ်းဗိုက်၌ ပတ်ချည်ပြီးနောက် အပေါ်မှအဝတ်အကျီကိုဖုံးလျက် ဖရိုဖရဲ အပူသည်ရုပ်သွင်ဖြင့် ဘုရားရှင်၏တရားသဘင်ကျင်းပရာ လူပုံအလယ်သို့ ဝင်လေတော့၏။

tied on her stormach. She covered the cloth on it and went to Buddha's teaching ceremony as disorder grief stricken person among the people.








မင်းလမ်းအတိုင်း ဘုရားရှင်ထိုင်နေတော်မူရာ တရားပလ္လင်ဆီ ခပ်တည်တည်လျှောက်လှမ်းလာသည့် စိဥ္စမာဏကိုကြည့်ကာ
Seeing Seinsa Marna who was walking to the altar sitting Buddha steadily on the main road.

တရားနာ ပရိသတ်အပေါင်းမှာ အံ့အားတသင့်ဖြစ်နေကြလေသည်။ စိဥ္စမာဏသည်ဘုရားရှင်၏ရှေ့တည့်တည့်သို့ရောက်လေလျှင်‌‌ ‌. လက်ညှိုးငေါက်ငေါက်ထိုးလျက်ကျယ်လောင်စူးရှသောအသံဖြင့်စွပ်စွဲရန်တွေ့ခြင်း ပြုလေတော့၏။ The listening audience were surprised. When Seinsa Marna arrived before Buddha she was pointing out her index fingers and provoked and accused with sharp voice loudly.

ဟယ် ရဟန်းကြီး ဂေါတမ ရှင်ကတော့ ဒီမှာ အေးဆေးတရားပြလို့ပေါ့ဟုတ်လား
He! The monk Gautama. You are preaching here peacefully. Are you?


ကျွန်မမှာတော့ ရှင်နဲ့ရတဲ့ဒီကိုယ်ဝန်ကို မွေးဖွားဖို့ နေ့စေ့လစေ့ကြီးမှာမီးနေခန်းတောင် မရှိလို့ ဒုက္ခတွေ့ ဗျာများနေရတယ်ရှင့်
For me when the day falls to bear the pregnancy of you I have no place to bear and I am full of worries.


ရှင်တာဝန်မဲ့လှချေလား.. မွေ့လျော်ပျော်ပါးတုံးက ပျော်ပါးပြီး ခုမှ မသိချင်ယောင်ဆောင်မနေနဲ့.. ခု ပလ္လင်ပေါ်ကဆင်းပြီး ကျွန်မနဲ့လိုက်ခဲ့ပေတော့ ...
You are irresponsible. When you enjoyed you were happy but now don't pretend not to know. Now get off from the altar and come along with me.


စိဉ္စမာဏ ၏ ပြင်းထန်သော စွပ်စွဲမှုကြောင့် တရားနာပရိသတ်အပေါင်းမှာ ထိတ်လန့်တုန်လှုပ်အံ့ဩလျက် ကြက်သေ သေနေပါကြလေ၏
For Seinsa Marna's strong accusation the listening audience were very frightened and surprised and were silent.
စိဉ္စမာဏ ပြောသလိုဟုတ်နေပြီနဲ့တူတယ်
It seems to be true as Seinsa Marna says.



ဘုရားရှင်ကမူ တုန်လှုပ်ခြင်း ကင်းလျက် စိဉ္စမာဏအား တည်ကြည်စွာကြည့်ကာ မိန့်တော်မူလေသည် ...

Buddha was steady and stable without trembling and looked Seinsa Marna and addressed.

စိဉ္စမာဏ သင့်ရဲ့စွပ်စွဲချက်မှန် မမှန်ကို သင်နဲ့ငါ သိတယ်

Seinsa Marna. Only you and I know whether your accusation is true or not.

ထို့နောက် ဘုရားရှင်သည် စိဉ္စမာဏအပေါ် မေတ္တာစိတ်ထားလျက် မေတ္တာကမ္မဋ္ဌာန်းစီးဖြန်းလျက် ဆိတ်ဆိတ်နေတော်မူလေ၏။

Then Buddha kept kindness on Seinsa Marna and dwelled kind meditation and was silent.



ယင်း သမယမှာပင် တာဝတိံသာနတ်ပြည်မှ သိကြားမင်းသည် သူထိုင်နေကျပဏ္ဍုကမ္ဗလာ မြကျောက်ဖျာ ပူနွေးလာသဖြင့် လူ့ပြည်သို့ သတိပြုကြည့်လိုက်ရာ ...

At that time velvet covered rock on which sakka sat in Tarwadaintha celestial abode became hot so he noticed and looked to human world.






သို့ဖြင့် သိကြားမင်းသည် စေတမန်နတ်သားလေးပါးကိုခေါ်ကာ လူ့ပြည်သို့ ဆင်းလာပြီးလျှင် ...

So sakka called his four deity servants and got off the human world.



စေတမန်နတ်သားတို့အား ကြွက်ယောင် ဖန်ဆင်းစေလျက်...

He made the deity servants create as rats.



စိဉ္စမာဏ၏ဝမ်းဗိုက်မှဖျဉ်ခုံးကို ချည်နှောင်ထားသည့် ကြိုးအား ကိုက်ဖြတ်စေလေ၏။

Then they bite and cut the rope tied the curve timber from Seinsa Marna's stormach.




ကြိုးပြတ်သည့်တွင် ပျဉ်ချပ်ခုံးကြီးသည် စိဥ္စမာဏ၏ခြေဖမိုးပေါ်သို့ ပြုတ်ကျလေသည်။
When after the rope was cut the curve timber droped onto seinsa Marna's feet.
Done!


အောင်မလေး တော့် . . .
Oh! My!


ဟာ ကိုယ်ဝန်မှ မဟုတ်ဘဲ . . ပျဉ်ချပ်ခုံး ကြီးပါလား . .
Har! It's not pregnant. It is curve timber.


ကြည့်စမ်း စိဥ္စမာဏ မိန်းမယုတ်က ငါတို့ရဲ့ဘုရားရှင်ကို သက်သက်မဲ့ လုပ်ကြံဖြားစွပ်စွဲပုတ်ခတ်တာပဲ
See! The wicked woman seinsa Marna tricks and accuseds and slanders our Buddha.


တောက်
အတော်ယုတ်မာတဲ့ဟာမ
သင်းကိုကျောင်းအပြင်ဘက် ဆွဲထုတ်ကြရအောင်ဟေ့ . . .
Taut! Very wicked woman. Let us pull out her to the compound outside.



တရားနာပရိသတ်တို့လည်း
စိဉ္စမာဏကို ကျောင်းဝင်းအပြင်သို့
ဆွဲထုတ်သွားကြရာ . .

The listening audience pulled out Seinsa Marna to the outside compound.

ကျောင်းဝင်းပြင်ပ မြေကြီးပေါ်သို့ စိဉ္စမာဏခြေချမိသည်နှင့် မဟာပထဝီမြေကြီးသည် တော်လဲသံများ မြည်ဟီးလျက် ဟက်တက်ကွဲပြီးသကာလ မြေအက်ကွဲကြောင်းကြီးထဲမှ ကြောက်မက်ဖွယ် မီးတောက်မီးလျှံများ ရုတ်တရက် ထွက်ပေါ်လာပြီးလျှင် . . .

Then as soon as Seinsa Marna stepped to the earth in the monastery compound outside the earth exploded with the brontide sound and the fearful flames immediately appeared from the earth crack.



စိဉ္စမာဏကို ဖုံးလွှမ်းလျက်...

Covering Seinsa Marna.

မဟာအဝီစိငရဲသို့ ခေါ်သွားပါလေတော့၏။

took to Marhar Avici hell.

အမယ်လေး ကယ်တော်မူကြပါရှင်

Oh! My! Save me!

ဖော်ပြပါအတိုင်း စိဉ္စမာဏ မိန်းမယုတ်ကို အောင်မြင်တော်မူခြင်းသည် ဘုရားရှင်၏ ပဥ္စမမြောက်အောင်နိုင်ခြင်းပင် ဖြစ်ပါတော့သတည်း ...

Such victory to wicking woman, Seinsa Marna was fifth victory of Lord Buddha.



The End.



# သစ္စကပရိဗိုဇ်ကို အောင်မြင်တော်မူခြင်း

## Lord Buddha's victory over heretic Thisska

ဝါဒတစ်ထောင်.. အာဂုံဆောင်လျက်
ဂုဏ်မာန်တက်ကြွ.. မာနခေါင်ခိုက်
သစ္စကပရိဗိုဇ်အား.. တရားချင်းယှဉ်
စကားစစ်ဆင်လျက်.. တန်ခိုးစက်ရှိန်
ဂုဏ်မဟိန်ဖြင့်.. ချိုးနှိမ်ပယ်ရှင်း
အောင်မြင်ခြင်းကား..
အောင်ခြင်း ဆဋ္ဌမဖြစ်၏တည်း ...။

Memorizing thousand doctrines
he was fired with enthusiasm for
dignity and his pride was astronomical
He was Thissaka itinerant heretic who
was suppressed comparing the doctrine
and fighting with words with might
and dignity. Buddha won and
this was sixty vicotry.



ဂေါတမဘုရားရှင်လက်ထက်တွင် ဝေသာလီပြည်၌ ဖခင်တက္ကတွန်းထံမှ ဝါဒငါးရာ မိခင်တက္ကတွန်းထံမှ ဝါဒငါးရာ သင်ကြားတတ်မြောက်ထားသော သစ္စကဟုအမည်ရှိသည့် ပရိဗိုဇ်တစ်ဦးရှိလေသည်...

At the Buddha age there was a itinerant heretic named thissaka who had learnt five hundred doctrines from father tekadun and five hundred doctrines from mother tekadun in Waithali country.



သူသည် ဝါဒတစ်ထောင်ကို ပိုင်နိုင်ကျွမ်းကျင်သဖြင့် သူ့ကိုယ်သူ ဉာဏ်ပညာကြီးမားလွန်းသူဟု အထင်ရောက်လျက် ပညာမာနထောင်လွှားနေသူဖြစ်သည်...

Since he was well skilled in thousand doctrines he thought as he was very well learned person and he was stuck up for knowledge pride.




အယူဝါဒခြင်းပြိုင်ကာ စကားစစ်ထိုးရာ၌ သူ့ကိုယှဉ်ပြိုင်ဝံ့သူမရှိရာ... လိစ္ဆဝီမင်းသားတို့၏ အထင်တကြီးကိုးကွယ်ခြင်း ခံရပြီး ဆရာကြီးတစ်ဆူဖြစ်လျက် ရှိလေ၏..
There was no one who dared to compete him in fighting with words competing doctrine. He got great impression of lissawi princes and he was worshipped and a great teacher.


ဒီ ဇမ္ဗူတစ်ခွင်မှာ ငါ့ကိုဖက်ပြိုင်အံတုဝံ့သူ ဘယ်သူရှိမလဲ..
Who dares to vie and compete in this world.


ဆရာကြီး ရှင်တော် ဂေါတမဟာလည်း ဝါဒအရာမှာ ဆရာတစ်ဆူလို့ကျော်ကြားနေပါတယ်
Heretic! The monk Gautama is also famous as master of doctirines.


သူသည် ဗုဒ္ဓဂေါတမ၏သတင်းကိုကြားသဖြင့် စကားစစ် ထိုးဝါဒပြိုင်ရန် စိတ်အကြံရှိနေလေသည်.. သို့သော် ဗုဒ္ဓ၏ဝါဒကို ဘာမှန်း သူမသိချေ ...
Since he heard the Buddha Gautama's news he considered to compete for fighting words. But he didn't know what was the doctrine of Buddha.



တစ်နေ့တွင် အရှင်အဿဇိ မထေရ်မြတ် ကြွလာသည်ကိုမြင်လေလျှင် ...

One day when he saw the noble monk Athazi was coming




သို့ဖြင့် အရှင်အဿဇိမထေရ်အား မေးမြန်းလေတော့၏ ...

Then he asked the noble monk Althazi.















သို့ဖြင့် တစ်နေ့တွင် သစ္စကပရိဗိုဇ်သည် ဗုဒ္ဓမြတ်စွာဘုရားနှင့်ဝါဒခြင်းပြိုင်ပြီး သူကအနိုင်ယူကာ ဗုဒ္ဓဘုရားရှင်အား ချေချွတ်ပြမည်ဟု ကြွေးကြော်ကာ ဝေါယာဉ်ဖြင့် ဘုရားရှင်ရှိရာသို့ ချီတက်လေတော့၏။ လိစ္ဆဝီမင်းသားများပါ လိုက်ပါလာပြီးလျှင် ...

Then one day Thissaka itinerant heretic claimed that he would deliver Buddha winning after he competed doctrine with Buddha. And he marched to Buddha by palanquin Lissawi princes also followed.





မဟာဝုန်တောအတွင်းသို့ ရောက်လေလျှင် သစ္စကပရိဗိုဇ်သည် ဘုရားရှင် သီတင်းသုံးထိုင်နေတော်မူရာ သစ်ပင်ရင်းသို့ ချဉ်းကပ်သွားပြီးလျှင် မေးခွန်းထုတ်လေတော့၏။

When they arrived to Mahar Won forest he approached to the tree root where Buddha was living and sitting and asked the questions.






သစ္စက ရုပ်နာမ်
တရားတို့ဟာ ပြောင်းလဲ
ခြင်းသဘောရှိတယ်.. မမြဲခြင်း
သဘောသာရှိတယ်...
Thissaka. Physical and mental form are changeable nature. They are insubstantial nature.

ဒါကြောင့် ငါ၏ဥစ္စာ
ငါ၏ပိုင်ဆိုင်ရာလို့ စွဲလန်းတပ်မက်ခြင်း
မဖြစ်စေရန် အနတ္တရဲ့သဘောကို ဆင်ခြင်
နိုင်စေရန် ငါဘုရား ဟောကြားခြင်းဖြစ်တယ်
So I preach to consider the nature of nonself not to be obsessive as my thing, my property.

သင်၏ရုပ်နာမ်ကို
သင်၏အတ္တကပိုင်စိုးသည်
ဟု ဆိုချင်ပါသလော သစ္စက
Thissaka. Do you want to say that your self (atta) rules your physical form and mental form.

ဆိုချင်ယုံမက
ဆိုကိုဆိုပါတယ်.. ကျွန်ုပ်ရဲ့
ရုပ်နာမ်တို့ကို ကျွန်ုပ်ရဲ့အတ္တက
ပိုင်တယ်.. လိုရာစေလို့ရတယ်...
Not only I want to say but also I say. My atta (self) possess my physical and mental form.I can order what I want.




ဤတွင် သစ္စကပရိဗိုဇ်သည် မဖြေဆိုနိုင်တော့ဘဲ ငိုင်သွားတော့၏။
Then Thissaka itinerant heretic couldn't answer and moped.






ဘုရားရှင် နှစ်ကြိမ်နှစ်ခါ
မေးသည့်တိုင်မဖြေနိုင်ဘဲ
သစ္စက ပရိဗိုဇ်သည် ငိုင်
လျက်နေရာ..
Although Buddha asked two times Thissaka itinerant heretic couldn't answer and was moping.





သိကြားမင်းသည် ဘီလူးအသွင်ဖန်ဆင်းလျက် ဝရဇိန်လက်နက်ဖြင့်
ခြိမ်းခြောက်တော့၏။

Sakka created as ogre and threatened with thunderbolt.



သည်တော့မှ သစ္စကပရိုဗိုဇ် သည် အရှုံးပေးဝန်ခံရလေတော့၏။

After that Thissaka itinerant heretic confessed and gave up.





မှန် မှန်ပါ ရှင်နောင်တို့ကို အတ္တမစိုးပိုင်ပါ.. အနတ္တတရားကသာ စိုးပိုင်ပါတယ်ဘုရား.. အရာရာဟာ မမြဲခြင်းသဘော အနတ္တသာ ဖြစ်တယ်ဆိုတဲ့ အရှင်ဘုရားရဲ့ဝါဒသာ မှန်ပါတယ်ဘုရား..

True. Self cannot possess the physical and mental form. Your doctrine of everything is insubstantiality nature is true.

ဤသို့လျှင် ပညာမာန အတ္တကြီးသော အယူဝါဒဆိုင်ရာ ဆရာကြီးကို အောင်နိုင်ခြင်းသည်ကား မြတ်စွာဘုရားရှင်၏ ဆဋ္ဌမမြောက် အောင်မြင်ခြင်းပင် ဖြစ်ပါတော့သတည်း..

With that explanation, Lord Buddha subdued the itinerant heretic Thissaka. This was the sixth victory of Lord Buddha.



The End.



# နန္ဒောပနန္ဒနဂါးမင်းကို အောင်မြင်တော်မူခြင်း

Lord Buddha's victory over Nandaupananda, the king of dragon

ကြမ်းတမ်းခက်ထန်.. မျက်စောင်းမာန်ဖြင့်
ခိုးလျှံလွှန်ပြင်း.. နန္ဒောပနန္ဒ နဂါးမင်းကို
မြင့်မိုရ်ထက်ပတ်.. တန်ခိုးမြတ်ရှိန်
ဂုဏ်မဟိန်ဖြင့်.. ချိုးနှိမ်ပယ်နှင်း
အောင်တော်မူခြင်းကား..
အောင်ခြင်း သတ္တမဖြစ်၏တည်း ...။

The dragon king Nandaw Pananda was very rough and harsh. It was spirited and forceful with sideglance and its vapour was very strong. It was suppressed with might and dignity of Buddha on a high mountain. It was seventh victory.



ဂေါတမမြတ်စွာဘုရားရှင်လက်ထက်တွင် မြင့်မိုရ်တောင်၌ ကြီးကျယ်ခမ်းနားသောဗိမာန်ဖြင့် စည်းစိမ်ပြည့်ဝစွာ စံမြန်းလျက်ရှိသော နန္ဒောပနန္ဒ နဂါးမင်းသည် ဘုရား တရား သံဃာတည်း ဟူသော ရတနာသုံးပါးကို ရိုသေလေးစားရကောင်းမှန်းမသိသော နဂါးဆိုးကြီးပင် ဖြစ်ပါ။

At the age of Buddha the dragon king Nandaw Pananda was ruling in a grand celestial abode on Myintmo mountain with full luxuries. It was unruly dragon which did not know three treasures, Buddha, doctrine and the monk to give respect.



သူသည် တစ်နေ့သ၌ ကခြေသည်နဂါးမပေါင်း များစွာခြံရံလျက် ပျော်ပွဲရွှင်ပွဲ ဆင်နွှဲလျက်ရှိစဉ်

One day it was participating happy festival surrounded by many female dragon dancers



ဘုရားရှင်သည် ကျွတ်ထိုက်သော ဝေနေယျတို့ကို ဒိဗ္ဗစက္ခုဖြင့် ရှုကြည့်ဆင်ခြင်သော နန္ဒောပနန္ဒနဂါးမင်းအား ကျွတ်ထိုက်သူအဖြစ် မြင်တော်မူသဖြင့်..

when Buddha looked and considered for the delivering creatures with divine eye and saw Nandaw Pananda dragon king was suitable for deliverance.



နဂါးမင်းအား ချေချွတ်ရန် နောက်ပါတပည့်သံဃာတော်များနှင့်အတူ မြင့်မိုရ်တောင်သို့ ကောင်းကင်ခရီးဈာန်ဖြင့် ကြွလာတော်မူလေ၏။

So Buddha came to Myint Moe mountain to set free dragon king by sky travel by levitation with Buddha's followers monks.





ထိုရောအခါ နန္ဒောပနန္ဒ နဂါးမင်း၏ ခေါင်းပေါ်သို့ မြေမှုန့်များ ကျလေရာ ...

At that time earth powder dropped on the head of Nandaw Pananda dragon king.




ဒေါသတကြီးမော့ကြည့်လိုက်သည်တွင် သူ၏ ဗိမာန်ပေါ်မှ ကြွသွားကြသော ဘုရားရှင်နှင့်ရဟန်းတော်တို့ကို တွေ့ရလေ၏။

When it held up its head angrily it saw the Buddha and monks flying on his abode.





နဂါးမင်းသည် ဒေါသတကြီးဖြင့် သူ၏ကိုယ်ခန္ဓာကို ကြီးမားအောင် ဖန်ဆင်းလိုက်ပြီးလျှင် မြင့်မိုရ်တောင် တစ်တောင်လုံးကို သူ၏ခန္ဓာကိုယ်ကြီးဖြင့် (၇)ပတ် ရစ်ပတ်ထားလိုက်တော့၏။

The dragon king created its body to be larger angrily and it wound the whole Myint Moe mountain seven times.



ထို့အပြင် သူ၏ပါးပျဉ်းကြီးဖြင့် မြင့်မိုရ် တောင်ထိပ်ကို အုပ်မိုးလိုက်ပြန်ရာ..

In addition it covered the top of the Myint Moe mountain with its hood.



ညဉ့်သန်းခေါင်ယံနှယ် အမှောင်တိုက်ကြီးဖုံးလွှမ်း သွားပါတော့၏။

So darkness covered as it was the time of midnight.





ထိုအခါ ရဟန်းတော်များက ဘုရားရှင်ထံ ခွင့်တောင်းကြလေ တော့သည်...

Then the monks asked permission Buddha.




သို့သော် ဘုရားရှင်သည် မည် သည့်ရဟန်းတော်ကိုမျှ ခွင့်ပေး တော်မမူဘဲ ...

But the buddha didn't allow any monk and



တန်ခိုးအရာ၌ ဘုရားရှင်ပြီးလျှင် တန်ခိုးအကြီးဆုံး ဧတဒဂ်ရသော ရှင်မောဂ္ဂလာန်ကိုယ်တော်ကြီးကိုသာ ခွင့်ပြုတော်မူလေ၏။

The Buddha allowed the monk Shin Mauggalan had the mightiest eminence in wisdom after the Buddha.








နန္ဒောပနန္ဒနဂါးမင်းက ဒေါသ တကြီးဖြင့် မီးတောက်မီးလျှံ အခိုးအငွေ့တို့ လွှတ်လေလျှင်

The dragon king Nandaw Pananda emitted flames and vopour furiously.






သူ့ထက်ပိုမို ကြောက်မက်ဖွယ်ကောင်းသည့် နဂါးကြီးကို ကြည့်ကာ နန္ဒောပနန္ဒနဂါးမင်းက မေးလေသည်။
The dragon king Nandaw Pananda asked looking at the more fearful dragon than him.

သင်ဟာ ဘယ်သူလဲ.. သင့်ရဲ့မူလအသွင်ကို မြင်လိုပါတယ်..
Who are you? I want to see your original feature.

ဤတွင် ရှင်မောဂ္ဂလာန်မထေရ်က လူသားရဟန်းအသွင်ပြောင်းလိုက်လေသည်။
At this time the noble monk Shin Mauggalan changed into human monk.








ဩ..
လက်စသတ်တော့
သင်းဟာ လူသားပဲကိုး..
ဒီတစ်ခါတော့ တွေ့ကြသေး
တာပေါ့...
In fact he is human
being. At this time
will meet.




ထိုအခါ ရှင်မောဂ္ဂလာန် ကိုယ်တော်ကြီးသည် နဂါးခံတွင်းမှ
ဝင်ပြီးလျှင် နားနှစ်ဖက်မှ ပြန်ထွက်ပြလေသည်။
On that time Shin Mauggalan entered from the dragon
mouth and showed going out of the two ears.







နဂါးခံတွင်းမှ ရှင်မောဂ္ဂလာန် ကိုယ်တော်ကြီးအထွက်တွင် နဂါးမင်းက မီးတောက်မီးလျှံ အခိုးအငွေ့တို့ဖြင့် ပြင်းထန်စွာ လွှတ်လေ၏။

When Shin Mauggalan came out from the mouth of dragon the dragon king emitled flames and vapour strongly.





ရှင်မောဂ္ဂလာန် ကိုယ်တော်ကြီး ဖန်ဆင်းထားသည့် နဂါးကြီးက ပြန်မှုတ်ရာ မခံမရပ်နိုင်ဖြစ်ပြီး ...

The large dragon created as Shin Mauggalan sent out the flames again so it was unbearable






နဂါးမင်းသည် လူသား၏
အသွင် ဖန်ဆင်းပြန်သော်
ရှင်မောဂ္ဂလာန်ကိုယ်တော်ကြီး
က နတ်ဘီလူးကြီးသဏ္ဌာန်
ဖန်ဆင်းပြီး ကိုက်စားဟန်
ခြိမ်းခြောက်လေ၏။

When the dragon king recreated as human being Shin Mauggalan created as deity ogre and threatened to eat.

ထိုရောအခါ နန္ဒောပနန္ဒ နဂါးမင်းသည်
သူ့ထက်တန်ခိုးကြီးမားသည့် ရှင်မောဂ္ဂလာန်
အား အရှုံးပေးရတော့၏။

At that time the dragon king Nandaw Pananda surrendered Shin Mauggalan who was mightier.

အရှင်မြတ်ဘုရား
တပည့်တော်ကို ချမ်းသာ
ပေးတော်မူပါ.. ယနေ့မှစ၍
အရှင်မြတ်တို့ကို ကိုးကွယ်ဆည်း
ကပ်ပါတော့မယ် ဘုရား..

Oh. Buddha. Please spare me. From today I will worship the monks.

သင် ကိုးကွယ်ရာ
သည်ငါမဟုတ်၊ ဘုရားရှင်သာ
ဖြစ်၏.. သင် လိုက်ခဲ့လော့..

The person you have to worship is not me. He is Buddha. You can follow me.



သို့ဖြင့် ရှင်မောဂ္ဂလာန်ကိုယ်တော်ကြီးသည် လူအသွင်ဖန်ဆင်းထားသည့် နန္ဒောပနန္ဒ နဂါးမင်းကို ဘုရားရှင်၏ရှေ့တော်မှောက်သို့ ခေါ်ဆောင်သွားလေ၏။

So the monk Shin Mauggalan took dragon king created as human being before Buddha.

ဘုရားရှင်လည်း နန္ဒောပနန္ဒ နဂါးမင်းအား သင့်လျော်ရာ ဓမ္မကထာဖြင့် ဟောပြဆုံးမတော်မူပြီးလျှင် ဥပသကာအဖြစ် လက်ခံတော်မူလေ၏။

Buddha preached and taught Nandaw Pananda dragon king appropriate damma incantation and accepted as Buddhist lay devotee.

ယင်းသို့လျှင် ဒေါသမာန်ဟုန်ကြီးမားလှသည့် နန္ဒောပနန္ဒ နဂါးမင်းကြီးကို အောင်နိုင်ခြင်းသည် ဘုရားရှင်၏ သတ္တမမြောက် အောင်မြင်တော်မူခြင်း ပင်ဖြစ်ပါသတည်း ...

As such achievement to exceedingly wrathful dragon king, Nandaw Pananda was seventh victory of Buddha.



ပြီး

The End.



# ဗကဗြဟ္မာအား အောင်မြင်တော်မူခြင်း

## Lord Buddha's victory over Baka brahma



မှားယွင်းမိစ္ဆာ . ဖောက်ပြန်ကာလျှင်
လွဲစွာယူမှတ် . စိတ်ဓာတ်ခက်ထန်
မျက်မာန်မောက်စွာ ဗကဗြဟ္မာအား
တန်ခိုးထွားရှိန် . ဂုဏ်မဟိမ်ဖြင့်
ချိုးနှိမ်ပယ်နှင်း . အောင်တော်မူခြင်းသည်ကား
အောင်ခြင်း အဋ္ဌမ ဖြစ်၏တည်း ...။

Baka brahma was harsh and haughty and he accepted misbelief and went bad and was wrong evil. He was suppressed with might and dignity by Buddha and it was eighth victory.



ဂေါတမမြတ်စွာဘုရားရှင်သည် ဥက္ကဋ္ဌမြို့ သုဘောဂ တောအုပ်အတွင်း အင်ကြင်းပင်ရင်း၌ သီတင်းသုံး တော်မူနေစဉ် အထက်ပထမဈာန်ဘုံ၌ စံမြန်းလျက် ရှိသော ဗကဗြဟ္မာကြီးသည် မသင့်လျော်သောလွဲမှား သည့်အယူအဆတို့ ယူဆလျက်ရှိကြောင်း အာရုံတွင် ထင်ပေါ်သိမြင်တော်မူလေရာ ...

When Buddha Gautama was living under dipterocarpus tree in Thu Boga forest in Oukahta town Buddha perceived in sense that Baka Byanmar who was enjoying in upper first supernatural powers commune was holding the improper wrong concepts.



ဗကဗြဟ္မာကြီးအား ချေချွတ်ရန် ဗြဟ္မာ့ဘုံ သို့ တန်ခိုးတော်ဖြင့် ကြွလှမ်းတော်မူလေ၏။

So Buddha went to brahma commune to deliver Baka brahma with might.



ဘုရားရှင်ကိုမြင်လေလျှင် ဗကပြဟ္မာကြီးသည် ခရီးဦးကြိုပြုလေ၏။
When Baka brahma met Buddha he recieved gladly.

အို အရှင်မြတ် ကြွပါလော့...
Oh! Noble monk. Please come

ကျွန်ုပ်တို့၏ဘုံသို့ အရှင်မြတ်လာခြင်းဟာ ကောင်းသောလာခြင်းပေပဲ ဒီဘုံဟာ မြဲမြဲတဲ့ဘုံဖြစ်တယ် ...
Your coming to our commune is good coming. This commune is a constant commune.

ဒီဘုံမှာ စံမြန်းနေတဲ့ ကျွန်ုပ်နှင့်တကွသော ဗြဟ္မာအပေါင်းဟာ အိုခြင်း နာခြင်း သေခြင်းမရှိဘူး ဒီဘုံကြီးဟာလည်း ပျက်စီးခြင်းမရှိဘူး ...
For me and for all Byamnar who are living in this commune don't have to suffer for old, pain and death troubles. This commune never destroys too.



အရှင်မြတ်ဟာ
ဒီဘုံကို အစောကြီးကတည်းက
ရောက်သင့်တယ်။ အခုလာတာတောင်
အတော်နောက်ကျနေပြီ ...
Buddha should arrive this commune
since early. Now your coming
is being late.

ဒီဘုံကလွဲလို့
အခြားဘုံတွေမှာ အို နာသေခြင်း
ကနေ မလွတ်မြောက်ပေဘူး။ ဒါကြောင့်
ဒီဘုံဟာ အမြတ်ဆုံးဘုံပဲ ဒီဘုံမှာပဲစံမြန်းပါ
Except this commune it does not get
free from old, pain, death troubles
in other communes. So this is
the highest noble commune.
Please enjoy in this
commune.

ဗကဗြဟ္မာကြီး
သင့်ရဲ့အယူအဆ မှားနေပြီ..
ဒီဗြဟ္မာဘုံနဲ့တကွ နတ်ဘုံ၊လူ့ဘုံအားလုံး
ဟာ သင်္ခါရသဘောအရ မမြဲပေဘူး..
Baka brahma. Your concept is wrong.
With this brahma commune all deity
commune and human world are
not constant as to transience
nature.




ဗြဟ္မာ့ဘုံဟာ
သက်တမ်း အင်မတန်ရှည်
ကြာလို့သာ သင်က မအို မနာ
မသေဘူးလို့ ထင်နေတာ..
Since the span of brahma commune is so long you think it does not not old, pain, and death troubles.
ဘယ်သောအခါမှ
မပျက်မစီး မသေမပျောက်ဘူး
ဆိုတဲ့ အယူဟာ မှားနေတယ်
အဲဒီအယူမှားကို စွန့်ပါလော့..
The doctrine to never destroy and die is wrong. So give up this doctrine.
ဗကဗြဟ္မာကြီးကား ခေါင်းမာ
သူပီပီ ဘုရားရှင်၏ ဟောဖော်
ညွှန်ပြဆုံးမခြင်းကို လက်မခံလို
ချေ..
Since Baka brahma was headstrong he didn't want to accept Buddha's teaching.


မဖြစ်နိုင်ပါဘူး.. ဒီဗြဟ္မာ့ဘုံဟာ မြဲကိုမြဲပါတယ်.. ကျွန်ုပ်တို့ ဗြဟ္မာတွေဟာလည်း မအို မနာ မသေသူတွေပဲ
It is impossible. This brahma commune is ever constant. We, brahma are never old and we never die.
သို့ဖြင့် ဗကဗြဟ္မာကြီးသည် အယူလွဲလျက်ရှိရာမှ ...
Since Baka brahma had misbelief.
ကဲ ဒါဆို အရှင်မြတ်နှင့်ကျွန်ုပ် တန်ခိုးခြင်းပြိုင်မယ်.. ကျွန်ုပ်နိုင်ရင် ကျွန်ုပ်ရဲ့အယူအဆကို အရှင်မြတ် လက်ခံရယူပါ.. အရှင်မြတ်နိုင်ရင် ကျွန်ုပ်ရဲ့အယူအဆကို စွန့်လွှတ်ပါ့မယ်..
So shall Buddha and I vie for might. If I win please accept my doctrine. If you win I will give up my doctrine.



သို့ဖြင့် ဗကဗြဟ္မာကြီးသည် ဘုရားရှင်ကို စိန်ခေါ်ကာ တန်ခိုးပြိုင်ရန် ကြိုးစားလေတော့၏။

In this way Baka brahma challanged Buddha and tried to vie.




သူသည် သူ့လောက် ဘုရားရှင်မှာတန်ခိုးမကြီးနိုင်ဟု ယူဆပြီးလျှင် သူ၏တန်ခိုးကို ပြသည့်အနေဖြင့် သူ့ကိုယ်ကိုဖျောက်ရန် ကြိုးစားလေသည်။

He assumed that Buddha cannot have great might as him as he showed his might he tried to disappear his body.






သို့သော် ဘုရားရှင်က တန်ခိုးတော်ဖြင့် ထိန်းချုပ်ထားသောကြောင့် ဗကဗြဟ္မာကြီးမှာ ကိုယ်ဖျောက်၍မရချေ ...

But because Buddha controlled with might Baka brahma couldn't disappear his body.






ယင်းအချိန်မှာပင် ဘုရားရှင်သည် ဖျတ်ခနဲ ကိုယ်ပျောက်သွားပြီးလျှင် ...

At that time Buddha disappeared immediately




တရားတော်ကို ဟောကြားတော်မူလေ၏။ ဗကဗြဟ္မာကြီးမှာ ဘုရားရှင်၏အသံတော်ကိုသာ ကြားနေရပြီး ဘုရားရှင်အား မတွေ့မြင်ရချေ...။

and preached the dorctrine. Baka brahma heard only Buddha's voice could not see Buddha.






ဧရာ. ငါသာ ကိုယ်
ဖျောက်မပြနိုင်တာ. ဘုရားရှင်က
အလွယ်လေးဖျောက်ပြနိုင်ပါလား. ငါ့ထက်
တန်ခိုးအရာမှာ သာပါပေတယ်...

I cann't disappear my body but
Buddha can do easily. Buddha
is mightier than me.

အရှင်ဘုရား
တပည့်တော် အရှုံးပေးပါတယ်
ယခုမှစပြီး တပည့်တော်ရဲ့အယူကို
ပယ်ပါတော့မယ်ဘုရား ...

Lord Buddha. I surrender. From
today I will give up my
doctrine.

ဤသို့လျှင် မာနကြီးပြီးခေါင်း
မာလှသော ဗကဗြဟ္မာကြီးအား
အောင်နိုင်တော်မူခြင်းသည်
မြတ်စွာဘုရား၏ အဋ္ဌမအောင်
ခြင်းပင် ဖြစ်ပါတော့သတည်း။

In this way Buddha achieved
Baka brahma who was
very proud and headstrong.
It was eighth victory
of Buddha.

ပြီး

The End.

